ကုမ္ပဏီအမည် - Shwe Pin Le Mining & Industry Co., Ltd.

လုပ်ငန်း - သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၇-၁၁-၂၀၁၅ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄၃/၂၀၁၅ သို့တင်ပြခြင်း | ၂၃-၁၁-၂၀၁၅ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၃၀-၁၁-၂၀၁၅ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | <br>၂၄-၁၁-၂၀၁၅<br>၂၄-၁၁-၂၀၁၅ | <br>၁၄-၁၂-၂၀၁၅<br>၁၇-၁၂-၂၀၁၅ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၇-၁၂-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၃-၁၂-၂၀၁၅ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၂၃/၂၀၁၅)MIC | (၂၈-၁၂-၂၀၁၅) | | |
| ၈ | **စုစုပေါင်းကြာမြင့်ရက် ၄၁ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Shwe Pin Le Mining & Industry Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့်ခဲမဖြူ အဖြိုက်နက် နှင့် ရောရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံ ကျေးရွာအုပ်စု၊ ယမုံဒေသရှိ ဧရိယာ (၅၇၂) ဧက (၂.၃၁၆ စတုရန်းကီလိုမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၀.၇၄ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၁၀၀၀ |
| ရောင်းချမည့်စနစ် | ပြည်ပသို့ ၁၀၀ % ရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | ထူထောင်မှုကာလ ၁နှစ်အပါအဝင် ထုတ်လုပ်မှု သက်တမ်း ၁၀ နှစ် |
| အရင်းကြေကာလ | ၅နှစ် နှင့် ၁လ |
| IRR | ၁၃.၈၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(၁နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | ကျပ် ၄၄.၄၀ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၂၂.၉၁ သန်း | ကျပ် ၁၁၄.၂၂ သန်း |
| ၅ | ဓါတ်သတ္တုခွန်(၁၀)နှစ် | - | ကျပ် ၂၈၅.၉၄ သန်း |
| ၆ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ် ဝင်ငွေ ကျပ် ၂ သန်း (ကျပ် နှစ်သန်းကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၅) ဦး |
| ၉ | CSR (၂%) | - | ကျပ် ၁၆.၆၉ သန်း |
| ၁၀ | မြေငှားရမ်းခရငွေ(၁၀ နှစ်) | - | ကျပ် ၆၉.၄၇ သန်း |
| ၁၁ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း ၅၂ ဦး |
| | | ကျပ် ၁၂၅.၉၁ သန်း | ကျပ် ၅၃၁.၉၂ သန်း |
| | ၁ း ၅ | | |

**ကန့်သတ်**

အကြောင်းအရာ။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ် သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) တို့၏ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိဧရိယာ (၅၇၂)ဧကတွင်ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံသူအမည် | - ဦးတင်မြင့် (အဘ-ဦးရှိန်ချွန်ထင်) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - PSC စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိဧရိယာ (၅၇၂) ဧက (၂.၃၁၆ စတုရန်းကီလိုမီတာ) |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ထူထောင်မှုကာလ ၁ နှစ် အပါအဝင် သက်တမ်း ၁၀ နှစ် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ထူထောင်မှုကာလ ပထမတစ်နှစ်တွင် ကျပ် ၁.၈ သန်း |
| | (တစ်နှစ်တစ်စတုရန်းကီလိုမီတာ) | - ထုတ်လုပ်မှုကာလ ဒုတိယတစ်နှစ်တွင် ကျပ် ၃.၀ သန်း |
| ၄။ | တည်ဆောက်ရေးကာလ/ ထူထောင်မှုကာလ | - (၁) နှစ် |
| | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၁၀) နှစ် |
| ၅။ | အဆိုပြုငွေ (Signature Bonus) | - ကျပ် သိန်း ၄၀၀ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ | **ကျပ်(သန်း)** |
| | **(US$ ၀.၇၄ သန်းအပါအဝင်** | - ငွေပမာဏ ၆၁.၀၀ |
| | **စုစုပေါင်း ကျပ်သန်း ၁၀၀၀)** | - အဆောက်အဦး ၅၁.၀၀ |
| | | - စက်ပစ္စည်း ၈၈၈.၀၀ (US$ ၀.၇၄ သန်း) |
| | | - **စုစုပေါင်း ၁၀၀၀.၀၀** |

**ကန့်သတ်**

| | | |
|---|---|---|
| ၇။ | ငွေကြေးအထောက်အထား | - ကုမ္ပဏီအမည်ဖြင့် မြန်မာ အရှေ့တိုင်းဘဏ် လီမိတက် ၌ (၁၉-၁၀-၂၀၁၅)နေ့စွဲရှိငွေကျပ်(၅၀၀,၄၅၃,၇၇၄)တင်ပြထားပါသည်။ |
| ၈။ | သတ္တုသိုက်ပမာဏ | - ဘူမိဗေဒ လေ့လာရေး နှင့် ဓာတ်သတ္တု ရှာဖွေရေး ဦးစီးဌာန၏ စိစစ်ချက်အရ ယမုံဒေသ လုပ်ကွက်၌ ပျမ်းမျှ ခဲမဖြူ ပါဝင်နှုန်း ၀.၄၆ ပေါင်/ကုဗကိုက်ရှိပြီး (သ-၃) အဆင့်ရှိ Concentrate ၁၀၇၈.၀၈ တန် သည် လက်ခံနိုင်ဖွယ် ဖြစ်ကြောင်းပြန်ကြားထားပါသည်။ |
| ၉။ | ခွဲဝေမှုအချိုး | - အရည်အသွေး အနည်းဆုံး ၆၅% ရှိ ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု **ထုတ်လုပ်မှု စုစုပေါင်း၏ ၄ % ကို နိုင်ငံတော်အတွက် ဓာတ်သတ္တုခွန်အဖြစ် ပေးဆောင်ပြီး** ကျန် ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တုများအပေါ် **အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ ၃၀%** နှင့် **ကုမ္ပဏီ** မှ **၇၀%** အချိုးဖြင့် ခွဲဝေယူမည်ဖြစ်ပါသည်။ |
| ၁၀။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ ရောင်းချခြင်း (Export on LME price basis) |
| ၁၁။ | နှစ်စဉ်ထုတ်လုပ်မှု | |
| | - ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု | - ၇၀ (မက်ထရစ်တန်) |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်(ဆဌမနှစ်) | |
| | ဓာတ်သတ္တုခွန်(၄%) | - ကျပ် ၂၈.၈၉၆ သန်း |
| | သတလ(၂)ဝေစု(၃၀%) | - ကျပ် ၂၀၈.၀၅၆ သန်း |
| | ဝင်ငွေခွန် | - ကျပ် ၂၃.၅၉၃ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၅၂ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်၍ အမြင့်ဆုံး လစာမှာ ကျပ် ၄၇၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၃ ဦး (နိုင်ငံခြားမှကျွမ်းကျင်ပညာရှင်များအား လိုအပ်မှသာအချိန်ပိုင်း အကြံပေးအဖြစ် ခန့်အပ်သွားမည်ဖြစ်ပြီး နိုင်ငံခြားဝန်ထမ်းတစ်ဦး၏လစာမှာ USD ၃၀၀၀ ဖြစ်ပါသည်။ |
| ၁၄။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်) | - ကျပ် ၄၈၅.၄၄၈ သန်း (US$ ၀.၄၀၅ သန်း) |
| | အသုံးစရိတ် | - ကျပ် ၃၈၇.၆၇ သန်း |
| | အသားတင်အမြတ် | - ကျပ် ၇၀.၇၇၈ သန်း |
| ၁၅။ | အရင်းကြေကာလ | - ၅ နှစ် ၁ လ |

**ကန့်သတ်**

ကျေးရွာအုပ်စု၊ ယမုံဒေသရှိ ဧရိယာ (၅၇၂) ဧက ဖြစ်ပါသည်။

- ထူထောင်မှုကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စ၍ (၁) နှစ်ဖြစ်ပါသည်။
- ခဲမဖြူ ၊ အဖြိုက်နက်နှင့် ရောရာသတ္တုသန့်စင် (၂)မျိုးပေါင်း အနည်းဆုံး ၆၅ % ရှိ သတ္တုများအား တစ်နှစ်လျှင် အနည်းဆုံး (၅၀) မက်ထရစ်တန်ထုတ်လုပ်ရမည်။
- ခဲမဖြူ ၊ အဖြိုက်နက်နှင့် ရောရာသတ္တု တူးဖော်ခြင်းလုပ်ငန်း အတွက် ခွင့်ပြုသည့်ကာလမှာ သတ္တုတွင်းဝန်ကြီးဌာနမှ ထုတ်ပေးသည့် ဓာတ်သတ္တုအကြီးစားထုတ်ယူရန် ခွင့်ပြုမိန့်ပါ လုပ်ငန်းစတင်လုပ်ကိုင်ခွင့်ပြုသည့်ရက်မှစ၍ (၁၀) နှစ် ဖြစ်၍ သက်တမ်းတိုးလိုပါက ကန်ထရိုက်တာသည် မြန်မာ့သတ္တုတွင်း နည်းဥပဒေများနှင့်အညီ တစ်ကြိမ်လျှင် (၅) နှစ်ထက်မပိုသော သက်တမ်းကို သတလ (၂)မှတစ်ဆင့် ဝန်ကြီးဌာနသို့လျှောက်ထား နိုင်သည်။ ယင်းသို့သက်တမ်းတိုးမြှင့်ရန်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့၏ သဘောတူညီခွင့်ပြုချက် ရယူရမည်။
- ကန်ထရိုက်တာသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ ပြုစုတင်ပြထားသော သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (EIA)၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (SIA)၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုဆန်းစစ်ချက်(HIA)တို့အရ အကောင်အထည်ဖော်ဆောင်ရွက်မည့် (EMP) အစီအစဉ်နှင့် Mine Closure Plan များအား ထုတ်လုပ်မှုလုပ်ငန်းမစတင်မီ သတလ-၂ သို့ အချိန်မီတင်ပြပြီး စီမံချက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။
- CSR လုပ်ငန်းအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ တိုင်းအထွေထွေမန်နေဂျာရုံးတို့မှ အဖွဲ့ဝင်(၃)ဦး ပါဝင်သော အဖွဲ့ဖွဲ့စည်း၍ သက်ဆိုင်ရာမြို့နယ်ရှိ မြန်မာ့ စီးပွားရေးဘဏ်တွင် သာမန်ငွေစာရင်း( Current Account) ဖွင့်လှစ်၍အပ်နှံရမည်။

| | | |
|---|---|---|
| ၁၆။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၃.၈၀ % |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်ငွေအပေါ် ၂% နှင့်ညီမျှသော ငွေကို သုံးစွဲဆောင်ရွက်မည်ဖြစ်ပြီး<br>စာကြည့်တိုက်များထူထောင်ပေးခြင်း ၁၅ %<br>ဆေးပေးခန်းများထူထောင်ပေးခြင်း ၂၅ %<br>လမ်းတံတား၊ ရေမြောင်းများပြုလုပ်ပေးခြင်း ၂၀ %<br>ပညာရေးထောက်ပံ့ငွေပေးအပ်ခြင်း ၂၀ %<br>လျှပ်စစ်မီးရရှိရေးဆောင်ရွက်ပေးခြင်း ၂၀ %<br>ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင် 400 KVA Generator နှစ်လုံးတပ်ဆင် အသုံးပြုမည် ဖြစ်ပါသည်။ |
| ၂၀။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ရင်းနှီးမြှုပ်နှံမှုငွေအပေါ် ( ၁ %) ကို ထုတ်လုပ်မှုစတင်သည့်နှစ်မှစ၍ နှစ်စဉ်ရန်ပုံငွေ ထားရှိဆောင် ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၁။ | သတ္တုတွင်းပိတ်သိမ်းမှုလုပ်ငန်းစဉ် အစီအစဉ် | - ကန်ထရိုက်သည့် လုပ်ကွက်အတွက် တစ်နှစ်လျှာထားချက် သတ္တုသန့်စင် (၅၀) မက်ထရစ်တန်အပေါ် ၂% ဖြစ်သော (၀.၅၀) မက်ထရစ်တန်၏ ကျသင့်တန်ဖိုးငွေအား Mine Closure Plan အတွက် အသုံးပြုသွားမည် ဖြစ်ကြောင်း၊ Mine Clouser Plan အတွက် သုံးစွဲရန် ငွေကို အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် ကုမ္ပဏီကိုယ်စားလှယ်တို့ ပါဝင်သောအဖွဲ့ဖြင့် ဘတ်ဂျက်နှင့် မသက်ဆိုင်သော သာမန်သုံးငွေစာရင်း သီးသန့်ဖွင့်လှစ်၍ ဘဏ်တွင် အပ်နှံသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၂။ | PSC စာချုပ်ပါအဓိကအချက်များ | - သဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော ယမုံလုပ်ကွက်သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံ |

ကန့်သတ်

| | | |
|---|---|---|
| | | - ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ၊ ဓာတ်သတ္တုခွန် (၄) % နှင့် သတလ(၂) ဝေစုအချိုးများကို သတ္တုအနေဖြင့်ဖြစ်စေ၊ သတ်မှတ်ထားသော ငွေတန်ဖိုးဖြင့်ဖြစ်စေ ပေးဆောင်ရမည်။ |
| ၂၃။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် ဩဂုတ် ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၇/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူ ဆုံးဖြတ်ခဲ့ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ (၁၁-၁၁-၂၀၁၅) ရက်စွဲဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ် တင်ပြထားပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၅၀/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ်လုပ်သည့် လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်ပေးရန်မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများတွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅) နှစ်သာ ရရှိနိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။<br>(ဃ) ပြည်ပမှ တင်သွင်းမည့် အမေရိကန် ဒေါ်လာ (၀.၇၄)သန်းတန်ဘိုးရှိ စက်ပစ္စည်းများအား အခွန်အကောက် ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။<br>(င) အဆိုပြုလုပ်ငန်းနှင့်အလားတူ Mining World Co., Ltd. မှ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကို ကော်မရှင် ခွင့်ပြုမိန့်အမှတ် ၁၀၂၄/၂၀၁၅ (၁၂-၁-၂၀၁၅) ဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်ရှိ မြေဧရိယာ (၄၀၃.၉၃) ဧက တွင် ဆောင်ရွက်လျက်ရှိပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(သ) /၀၀၉ / ၂၀၁၅ (၄၂၆)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာ လ ၂၂ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited(ရွှေပင်လယ် သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) တို့၏ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တု အကြီးစား တူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ် သတ္တု တူးဖော်ရေး နှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိ ဧရိယာ ၅၇၂ ဧက (၂.၃၁၆ စတုရန်းကီလိုမီတာ) တွင် ထုတ်လုပ် မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တု အကြီးစား တူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာန မှတဆင့် အဆိုပြုတင်ပြလာပါသည်။

၂။ သတ္တုတွင်းဝန်ကြီးဌာနသည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၇/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသ ရှိ လုပ်ကွက်ဧရိယာ ၅၇၂ ဧက (၂.၃၁၆ စတုရန်းကီလိုမီတာ) တွင်ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းကိုရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ (၁၀) နှစ်ဆောင်ရွက်ခွင့်ပြုရန် သဘောတူဆုံးဖြတ်ချက် ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၇၄ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း ၁,၀၀၀ ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၀.၇၄ သန်း တန်ဘိုးရှိ လုပ်ငန်းသုံး ယာဉ်၊ ယန္တရား၊ စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်းကျပ်(သန်း) | |
|---|---|---|
| (က) ငွေပမာဏ | ၆၀.၀၀ | |
| (ခ) အဆောက်အဦးတန်ဖိုး | ၅၀.၀၀ | |
| (ဂ) စက်ပစ္စည်းတန်ဖိုး | ၈၈၈.၀၀ | (US$ ၀.၇၄ သန်း) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၁၀၀၀.၀၀** | |

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၅၂) ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပြီး ပြည်တွင်းဝန်ထမ်း(၁) ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၂၀,၀၀၀) ဖြစ်၍ အမြင့်ဆုံး လစာ မှာ ကျပ် (၄၇၀,၀၀၀) ဖြစ်ပါသည်။ နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင် များအား လိုအပ်မှသာ အချိန်ပိုင်းအကြံပေးအဖြစ် ခန့်ထားမည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော အရည်အသွေးအနည်းဆုံး ၆၅% ရှိ ခဲမဖြူ အဖြိုက်နက်များကို တစ်နှစ်လျှင် မက်ထရစ်တန် ၇၀ ထိ ထုတ်လုပ်၍ London Metal Exchange ဈေးနှုန်း ဖြင့် ပြည်ပနိုင်ငံများသို့ ၁၀၀% တင်ပို့ရောင်းချသွားမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)ရှိ ကုမ္ပဏီ၏ ထုတ်လုပ်မှု၊ ရောင်းချမည့်ဈေးနှုန်း နှင့် ဝင်ငွေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | တစ်မက်ထရစ်တန် ရောင်းဈေးနှုန်း(US$) | ဝင်ငွေ (US$ သန်း) |
|---|---|---|---|---|
| (က) | ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တု | ၄၇.၀၄ | ၈၆၀၀ | ၀.၄၀၄၅ |

၆။ ယင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းအဖြစ်ပါသည်။

| | | | |
|---|---|---|---|
| (က) | ခါတ်သတ္တုခွန် (၄%) | ကျပ်(သန်း) | ၂၈.၈၉၆ |
| (ခ) | သတလ(၂)ဝေစု(၃၀%) | ကျပ်(သန်း) | ၂၁၈.၀၅၆ |
| (ဂ) | ဝင်ငွေခွန် | ကျပ်(သန်း) | ၂၃.၅၉၃ |

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့်(၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၃.၈၀ ရာခိုင်နှုန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေ၊ အသုံးစရိတ်နှင့်အသားတင်အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ = ၁၂၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ် (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၀.၄၀၅ | ၄၈၅.၄၄၈ | - | ၄၈၅.၄၄၈ |
| (ခ) | အသုံးစရိတ် | ၀.၀၂၀ | ၂၄.၂၇၆ | ၃၉၀.၃၉၄ | ၄၁၄.၆၇၀ |
| (ဂ) | အသားတင်အမြတ် | ၀.၃၈၄ | ၄၆၁.၁၇၂ | (၃၉၀.၃၉၄) | ၇၀.၇၇၈ |

၉။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ထားသည့် သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company တို့ချုပ်ဆိုမည့် လုပ်ငန်းသဘောတူစာချုပ် ( PSC စာချုပ်မူကြမ်း ) နှင့် လုပ်ငန်း တည်နေရာ ပြမြေပုံများကို ပူးတွဲတင်ပြထားပါသည်။ စာချုပ်မူကြမ်းပါ အဓိကအချက်များမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

(က)လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာမှာ စုစုပေါင်း ၅၇၂၈ဧက (၂၃.၁၆ စတုရန်းကီလိုမီတာ) ဖြစ်ပါသည်။**(အပိုဒ်၄-၁)**

(ခ) လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ကို နိုင်ငံတော်အစိုးရမှ စီမံကိန်းတစ်ခုခုတွင် အသုံးပြုရန် လိုအပ်ခဲ့လျှင် ကန်ထရိုက်တာဖြစ်သူက မိမိလက်ဝယ်ရယူထားသော လုပ်ကွက်ကို အစိုးရ သို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး သင့်လျော်သော သတ္တုလုပ်ကွက်ကို ကန်ထရိုက်တာ နစ်နာမှုမရှိစေရန် နှစ်ဦးနှစ်ဖက် ညှိနှိုင်း ဆောင်ရွက်ရမည်။ **(အပိုဒ် ၄-၂)**

(ဂ) ခွင့်ပြုသည့်ကာလမှာ လုပ်ငန်း စတင်လုပ်ကိုင် ခွင့်ပြုသည့်ရက်မှစ၍ (၁၀) နှစ် ဖြစ်သည်။ သက်တမ်းတိုးလိုပါက မြန်မာ့သတ္တုတွင်း နည်းဥပဒေများနှင့်အညီ တစ်ကြိမ်လျှင် (၅) နှစ် ထက်မပိုသော သက်တမ်းကို သတလ(၂) မှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့ လျှောက်ထားနိုင်သည်။ ယင်းသို့သက်တမ်းတိုးမြှင့်ရန်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက် ရယူရမည်။**(အပိုဒ်- ၉)**

(ဃ)လုပ်ငန်းအစီအစဉ်များကို ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရမှ ပြဋ္ဌာန်းထုတ်ပြန်ထားသော မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများ၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။ **(အပိုဒ် ၁၀-၁-စ)**

(င) ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍စာချုပ်အား ရပ်စဲလျှင်သော်လည်းကောင်း၊ သတ္တုတွင်းဝန်ကြီးဌာနမှ စိစစ်လက်ခံအတည်ပြုထားသော သတ္တုတွင်းလုပ်ကွက်ပိတ်သိမ်းမှုအစီအစဉ် (Mine Closure Plan) အတိုင်း စနစ်တကျ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ **(အပိုဒ်- ၁၀-၁-ဒ)**

(စ) ကန်ထရိုက်တာသည် ပုံသေမြေငှားရမ်းခ (Dead Rent) ကို မြန်မာ့သတ္တုတွင်းဥပဒေ၊ နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များအရ သတ္တုတွင်း ဦးစီးဌာနသို့ ထုထောင်မှုကာလ တစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာအတွက် (၁,၈၀၀,၀၀၀) ကျပ် နှုန်း၊ ထုတ်လုပ်မှုကာလ တစ်နှစ်လျှင် တစ်စတုရန်းကီလိုမီတာအတွက် (၃,၀၀၀,၀၀၀) ကျပ်နှုန်း ပေးဆောင်ရမည်။ **(အပိုဒ် ၁၀-၂)**

(ဆ) တူးဖော်ထုတ်လုပ်ရာမှ ထွက်ရှိလာသော ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုစုစုပေါင်း၏ ၄% ကို နိုင်ငံတော်အတွက် ဓါတ်သတ္တုခွန်အဖြစ် ပေးဆောင်ပြီးနောက် ကျန်ရှိသော ၉၆% အပေါ်တွင် သတလ(၂) မှ (၃၀) ရာခိုင်နှုန်း နှင့် ကန်ထရိုက်တာ မှ (၇၀) ရာခိုင်နှုန်း အချိုးဖြင့် ခွဲဝေယူရမည်။ **(အပိုဒ် ၁၂-၁)**

(ဇ) ခဲမဖြူနှင့် အဖြိုက်နက် နှင့် ရောရာသတ္တုများကို ပြည်ပသို့ ရောင်းချရာ၌ London Metal Exchange (LME) ဈေးနှုန်းကို အခြေခံ၍ ပူးတွဲစီမံခန့်ခွဲရေးကော်မတီ မှ

တွက်ချက် ထားသောဈေးနှုန်းကို သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ ဆုံးဖြတ်ချက်ဖြင့် တန်ဖိုးသတ်မှတ်ရမည်။ **(အပိုဒ် ၁၃-၁)**

(ဈ) ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရ လိုအပ်သော အာမခံများထားရှိရမည်။ **(အပိုဒ် ၁၆)**

(ည)ကန်ထရိုက်တာသည် လုပ်ကွက် အဆိုပြုငွေအဖြစ် ကျပ် ၄၀၀ သိန်း (သိန်းလေးရာတိတိ) ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် သတလ(၂)သို့ ပေးသွင်းရမည်။ **(အပိုဒ်- ၁၇-၁)**

(ဋ) ပူးတွဲစီမံခန့်ခွဲမှုကော်မတီတွင် အဖွဲ့ဝင် ၅ ဦးပါဝင်ပြီး သတလ(၂)မှ အဖွဲ့ဝင် ၃ ဦး နှင့် ကုမ္ပဏီ မှ အဖွဲ့ဝင်၂ ဦး ပါဝင်စေလျက် သတလ(၂) ၏ ဦးဆောင်ညွှန်ကြားရေးမှူးသည် ဥက္ကဋ္ဌ ဖြစ်ရမည်။ **(အပိုဒ် ၂၀- ၁ - ခ)**

(ဌ) လုပ်ငန်းသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း (၃၀) အတွင်း အာမခံ စပေါ်ငွေအဖြစ် ကျပ် ၁၀၀ သိန်း (သိန်းတစ်ရာတိတိ) ကို သတလ(၂) စာရင်းရှင် ငွေစာရင်းတွင် ထားရှိရမည်။ အာမခံစပေါ်ငွေကို သဘောတူစာချုပ်ပါ တာဝန်ဝတ္တရား များအားလုံး ဆောင်ရွက်ပြီးစီးသည်အထိ သဘောတူစာချုပ် သက်တမ်းတစ်လျှောက် ထားရှိရမည်။ **(အပိုဒ် ၂၂-၁)**

၁၀။ ကုမ္ပဏီအနေဖြင့်နိုင်ငံတော်မှ ပြဌာန်းထားသည့် အခွန်ဥပဒေများအတိုင်းပေးသွင်းရမည့် အခွန်များကိုလည်းကောင်း၊ သတ္တုတွင်းဦးစီးဌာနသို့ ပေးသွင်းရမည့် ပုံသေမြေငှားရမ်းခနှင့် ခါတ် သတ္တုခွန် များကိုလည်းကောင်း၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းသို့ ပေးသွင်းရမည့် ခွဲဝေမှုအချိုးများ ကိုလည်းကောင်း သတ်မှတ်ကာလအတွင်း အပြည့်အဝ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) တို့မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံ ကျေးရွာ အုပ်စု၊ ယမုံဒေသရှိ ဧရိယာ ၅၇၂ ဧက (၂.၃၁၆ စတုရန်းကီလိုမီတာ) တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့် နေရာ သည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်း (၆၀၀၀)ဧကအတွင်း ပါဝင်ခြင်းမရှိခြင်း ကြောင့် ထိခိုက်မှုမရှိပါကြောင်း၊ ဒေသခံပြည်သူတို့၏ လူမှုစီးပွားများကို ထိခိုက်မှုမရှိ ပါကြောင်း၊ ဒေသအတွင်း အလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာမည်ဖြစ်ပြီး ဒေသ

စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူများစွာ ရရှိလာမည်ဖြစ်ကြောင်း၊ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုများ မရှိစေရန် ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများတွင် ပါဝင် ပူးပေါင်းဆောင်ရွက်ပေးမည်ကို နှစ်ဖက်သဘောတူ ဝန်ခံကတိပြုထားပြီးဖြစ်သော ကြောင့် ဒေသခံများမှ သဘောတူလက်ခံထားသည်ကို စိစစ်တွေ့ရှိရကြောင်း သို့ဖြစ်ပါ၍ တနင်္သာရီ တိုင်းဒေသကြီးအစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်အဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်း ဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility— CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်း တို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(၂) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment -EIA) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Managemental Plan — EMP) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၅) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထား ရယူဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။

(ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု လျော့နည်းစေရေး (Environmental Impact Assessment)၊ လူမှုပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေရေးဆန်းစစ်ချက် (Social Impact Assessment)အစီရင်ခံစာ၊ ပတ်ဝန်းကျင်ပြည်သူလူထု၏ ကျန်းမာရေးထိခိုက်မှုမရှိစေရေး (Human Impact Assessment) အစီရင်ခံစာ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan) နှင့် သတ္တုတွင်းပိတ်သိမ်းမှုအစီအမံ (Mine Closure Plan) တို့ကို ရေးဆွဲတင်ပြထားပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက် မည်ဖြစ်ကြောင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် ရင်းနှီးမြှုပ်နှံမှုငွေအပေါ် ( ၁ %) ကို ထုတ်လုပ်မှု စတင်သည့် နှစ်မှစ၍ နှစ်စဉ်ရန်ပုံငွေ ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)

၁၂။ ငွေကြေးအထောက်အထားအဖြစ် Shwe Pin Le Mining & Industry Company Limited အမည်ဖြင့် မြန်မာအရှေ့တိုင်းဘဏ် (မန္တလေး ၃၅လမ်းဘဏ်ခွဲ) ၌ (၁၉-၁၀-၂၀၁၅) နေ့စွဲရှိ လက်ကျန် ငွေကျပ် (၅၀၀,၄၅၃,၇၇၄) ရှိကြောင်းတင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပြည်ပမှဝယ်ယူ တင်သွင်းမည့်ပစ္စည်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ စည်းကမ်းချက်များအတိုင်း တင်သွင်းဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ CSR အတွက် နှစ်စဉ် Net Profit ၏ ၂% သုံးစွဲမည်ဖြစ်ပြီး ကျေးရွာစာကြည့်တိုက်များထူထောင်ခြင်းအတွက် ၁၅%၊ ဆေးပေးခန်းများ ထူထောင်ခြင်းအတွက် ၂၅%၊ လမ်းတံတားများပြုပြင်ပေးခြင်း နှင့် ရေမြောင်းများပြုလုပ်ပေးခြင်းအတွက် ၂၀%၊ နေ့ကလေးထိန်းဌာန ဖွင့်လှစ်ပေးခြင်းနှင့် မူလတန်းကျောင်းများအား ပညာရေးထောက်ပံ့ငွေပေးခြင်းအတွက် ၂၀% ၊ လုပ်ကွက် ပတ်ဝန်းကျင်ကျေးရွာနှင့် လူနေရပ်ကွက် လျှပ်စစ်မီးရရှိရေးအတွက် ၂၀% ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က)အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၇/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကို သဘောတူ ဆုံးဖြတ်ခဲ့ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ထောက်ခံချက်အား (၂၃-၁၂-၂၀၁၃) ရက်စွဲ ဖြင့်လည်းကောင်း၊ ကျွဲခရံကျေးရွာအုပ်စု အုပ်ချုပ်ရေးမှူး၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်၊ ဒေသခံပြည်သူများ၏ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံချက်များ ရရှိပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ သဘာဝအရင်းအမြစ် တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းများမှာ အကောက်ခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ပေးရန်မလိုသော ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများတွင် ပါဝင်ပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅) နှစ်သာ ရရှိနိုင်မည် ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဃ)Shwe Pin Le Mining & Industry Company Limited သည် သတ္တုတွင်းဝန်ကြီးဌာန၏ ဓာတ်သတ္တု အသေးစားထုတ်လုပ်ရန် ခွင့်ပြုမိန့်များ နှင့် ဘူမိဗေဒလေ့လာရေး နှင့် ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန၏ ဓာတ်သတ္တုပါဝင်မှုန်း အတည်ပြုချက် တို့ကို တင်ပြထားပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့်အလားတူ Mining World Co., Ltd. မှ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းကိုကော်မရှင်ခွင့်ပြုမိန့်အမှတ် ၁၀၂၄/၂၀၁၅(၁၂-၁-၂၀၁၅) ဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ထားဝယ်မြို့နယ်၊ ပကာရီကျေးရွာအုပ်စု၊ ပကာရီဆင်းတွင်းကြီး သတ္တုလုပ်ကွက်ရှိ မြေဧရိယာ (၄၀၃.၉၃)ဧက တွင် ဆောင်ရွက်လျက်ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited တို့မှ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့် (PSC) စနစ်ဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိ ဧရိယာ (၅၇၂)ဧကတွင် ခဲမဖြူ၊ အဖြိုက်နက်၊ ရေရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**တနင်္သာရီတိုင်းဒေသကြီး**

စာအမှတ်၊ ၅၃၆၁ /၇၂၀/၇-၂၀/အဖရ(တနင်္သာရီ)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄.၁၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက- ၅ (သ)၊ ၀၀၉ / ၂၀၁၅ (၄၁၆)

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့၏ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံ ကျေးရွာအုပ်စု၊ ယမုံဒေသရှိ မြေဧရိယာ(၅၇၂)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် (PSC)စနစ် ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် တနင်္သာရီ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာမှုနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းဧရိယာ(၆၀၀၀) ဧကအတွင်း ပါဝင်မှုမရှိခြင်းကြောင့် ထိခိုက်မှုမရှိပါကြောင်း၊

(ခ) ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ကျွဲခရုံကျေးရွာ အုပ်စု၊ ယမုံဒေသရှိ မြေဧရိယာ(၅၇၂)ဧကတွင် ခဲမဖြူသတ္တုတူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားသည့် မြေဧကများနှင့် တစ်ဆက်တစ်စပ်တည်းရှိသော မြေပိုင်ရှင်(၅၇) ဦးတို့မှ ကန့်ကွက်ရန်မရှိကြောင်း သဘောတူလက်မှတ် ရေးထိုးထားပြီးဖြစ်သဖြင့် ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိပါကြောင်း၊

(ဂ) အဆိုပါ ကုမ္ပဏီမှ ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားထုတ်လုပ်ခြင်း လုပ်ငန်းများလာရောက်ပြုလုပ်မည်ဆိုပါက ဒေသအတွင်းအလုပ်အကိုင်အခွင့်အလမ်း များရရှိလာမည်ဖြစ်ပြီး ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူများ ရရှိလာနိုင်မည်ဖြစ်ပါကြောင်း၊

(ဃ) ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုများ မရှိစေရန် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် ပါဝင်ပူးပေါင်း ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်းနှင့် တောင်သူများ ထိခိုက်နစ်နာပါက ပြေလည်အောင် ညှိနှိုင်းဆောင်ရွက်ပေးမည်ကို နှစ်ဖက်သဘောတူဝန်ခံကတိပြုထားပြီးဖြစ်သောကြောင့် ဒေသခံများမှ သဘောတူလက်ခံထားသည်ကို စိစစ်တွေ့ရှိရပါကြောင်း၊

၂။ သို့ဖြစ်ပါ၍ စိစစ်တွေ့ရှိချက်များအရ နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ ဒေသခံပြည်သူတို့၏ လူမှုစီးပွားများကို မထိခိုက်နိုင်ခြင်း၊ မြို့နယ်ဒေသအတွင်း အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်နိုင်ခြင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်းတို့ကြောင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

(signature)

ဝန်ကြီးချုပ်(ကိုယ်စား)
(ခိုင်ထွန်းဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

လက်ခံစာတွဲ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၂၁(ဃ)(ဖ)/( ၇၉၉၀ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄ - ၁၁ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၅ (သ) / ၀၉၉ / ၂၀၁၅ (၄၁၇)

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ် (၂) သတ္တုတွင်း လုပ်ငန်း နှင့် Shwe Pin Le Mining & Industry Company Limited (ရွှေပင်လယ် သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်) တို့၏ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိ ဧရိယာ ( ၅၇၂ ) ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် ( PSC ) စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် နှင့် ရောရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သတ္တုတူးဖော်ခြင်း လုပ်ငန်းတွင် အသုံးပြုမည့် မြေ / သတ္တုတူးဖော်စက်များ၊ ယာဉ်ယန္တရားများမှ ထွက်ရှိလာမည့် အခိုးအငွေ့များ၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင် လေထုအား ထိခိုက်စေနိုင်သည့်အပြင် သတ္တုထုတ်လုပ်ရာတွင် အဓိကအသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ ဖြစ်သည့် Emulsion၊ Cordtex၊ Plain Detonator စသည်တို့သည် မြေကြီးထဲတွင် ဆွေးမြေ့ ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် စနစ်တကျစီမံ ခန့်ခွဲခြင်းမရှိပါက ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု၊ ရေထုတို့ကို ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ သတ္တုတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်း အဆင့်ဆင့်ကြောင့်အသံညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုလျှောက်ထားသည့် မြေဧရိယာ(၅၇၂)ဧကသည် သစ်တောနယ်မြေအတွင်း ပါဝင်ကျရောက်ခြင်း မရှိသော်လည်း မည်သူမဆို သစ်တောနယ်မြေ နှင့် သစ်တောဖုံးလွှမ်းလျက်ရှိသော အစိုးရက စီမံခန့်ခွဲရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း (သို့မဟုတ်) စီးပွားရေး၊ စီမံကိန်းလုပ်ငန်းတစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်ဟု သစ်တောဥပဒေပုဒ်မ ၁၂ ( က ) အရ

ပြဋ္ဌာန်းထားပါသဖြင့် အဆိုပြုမြေနေရာတွင် သစ်ပင်သစ်တောပေါက်ရောက်ဖုံးလွှမ်းမှု ရှိပါက ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ခြင်း ၊ ထို့အပြင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ သတ္တုတွင်းဝန်ကြီးဌာန ၊ အမှတ် (၂) သတ္တုတွင်းလုပ်ငန်းနှင့် Shwe Pin Le Mining & Industry Company Limited ( ရွှေပင်လယ် သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်) တို့၏ PSC စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစားတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာ အရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ် အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

၁၄/၁၂/၁၈

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Shwe Pin Le Mining & Industry Company Limited | Shwe Pin Le Mining & Industry Company Limited Representative By | |
| | | (၁) ရှီကျင်ဟိုက် (ခ) ဦးတင်မြင့်<br>မန်နေဂျင်းဒါရိုက်တာ<br>မြန်မာ<br>၉/မနမ (နိုင်) ၀၈၀၇၂၀ | အမှတ်-၂၈၇၊ ၃၅ လမ်း၊ ၈၇× ၈၈ လမ်းကြား၊ အရှေ့ဒေး၀န်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၂) ရှီကျင်ဆိုင်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/ လရန (နိုင်) ၀၈၄၆၈၉ | အမှတ်-၂၅၊ အောင်ရတနာလမ်းသွယ်၊ ၃၆× ၃၇ လမ်းနှင့် ၆၈× ၆၉ လမ်းအကြား၊ မဟာမြိုင်ရပ်၊ မဟာအောင်မြေမြို့နယ်၊မန္တလေးမြို့။ |
| | | (၃) ဒေါ်နန်းခင်မေ<br>ဒါရိုက်တာ<br>မြန်မာ<br>၉/မနမ (နိုင်) ၀၈၀၇၁၉ | အမှတ်-၂၈၇၊ ၃၅လမ်း၊၈၇ × ၈၈ လမ်းကြား၊ အရှေ့ဒေး၀န်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | (၄) ရှီကျင်ရွှေ (ခ) ဒေါ်စန်းစန်းမြင့်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၃/လရန (နိုင်) ၀၈၄၆၈၈ | အမှတ်-၂၅၊ အောင်ရတနာလမ်းသွယ်၊ ၃၆ × ၃၇လမ်းနှင့် ၆၈ × ၆၉လမ်းအကြား၊ မဟာမြိုင်ရပ်၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| | | (၅) ဦးကျော်ဇင်မြင့်<br>ဒါရိုက်တာ<br>မြန်မာ<br>၉/ခအဇ (နိုင်) ၀၀၄၆၄၁ | အမှတ်-၂၈၇၊ ၃၅-လမ်း၊ ၈၇ × ၈၈ လမ်းကြားအရှေ့ဒေး၀န်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်ကွက်၊ မန္တလေးမြို့။ |
| | | (၆) ဦးကျော်မင်းထွန်း<br>ဒါရိုက်တာ<br>မြန်မာ<br>၉/ခအဇ (နိုင်) ၀၀၄၆၄၂ | အမှတ်-၂၈၇၊ ၃၅ လမ်း၊ ၈၇ × ၈၈ လမ်းကြား၊ အရှ့ဒေး၀န်း၊ ပြည်ကြီးပျော်ဘွယ်အနောက် ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |

| | |
|---|---|
| ၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် | - ၀၉-၇၈၆၀၀၆၀၈ |
| ၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ | - အမှတ်-၂၈၇၊ ၃၅ လမ်း၊ ၈၇ × ၈၈ လမ်းကြား၊ အရှေ့ဒေးဝန်း၊ ပြည်ကြီးပျော်ဘွယ် အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| ၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးကျော်မင်းထွန်း (ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ခဲမဖြူအဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစား တူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ | - ၃၉၃/၂၀၀၉-၂၀၁၀(၁-၇-၂၀၀၉) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - ၃-၆-၂၀၁၈ |
| ၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - မြန်မာအရှေ့တိုင်းဘဏ် |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၁) ၁၅ ( ၁၁၉၅၁ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ နိုဝင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့၏ ယမုံဒေသရှိလုပ်ကွက်အား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တု အကြီးစား တူးဖော်ထုတ်လုပ်ခွင့်ပြုပါရန်တင်ပြခြင်း**

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိလုပ်ကွက်ဧရိယာ (၅၇၂)ဧကတွင် ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန၏စိစစ်ချက်အရ ပျမ်းမျှ ခဲမဖြူပါဝင်နှုန်း (၀.၄၆)ပေါင်/ကုဗကိုက် ရှိပြီး (သ-၃)အဆင့် Concentrate (၁၀၇၈.၀၈) မက်ထရစ်တန် တွေ့ရှိရပါသဖြင့် ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ခဲမဖြူအဖြိုက်နက်ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြလာခြင်းအား (၃၀.၁၀.၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၄၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးမှ သဘောတူညီပြီးဖြစ်ပါသည်။

၂။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိလုပ်ကွက်တွင် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့သည် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် (Production Sharing Contract) ဖြင့် ပူးပေါင်းထုတ်လုပ်ရန် ညှိနှိုင်းပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၁၀)တွင် ဖော်ပြထားသည့် ခွင့်ပြုမိန့်ကို ထုတ်ပေးနိုင်ပါရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်အား **နောက်ဆက်တွဲ(က)**ဖြင့် ဖော်ပြအပ်ပါသည်။

၃။ ဖက်စပ်လုပ်ငန်းလုပ်ကိုင်မည့်သူ နှစ်ဦးနှစ်ဖက်တို့ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ဥပဒေရှုထောင့်အရ စိစစ်ပြီးဖြစ်၍ အကြံဉာဏ်နှင့် သဘောထားမှတ်ချက်အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်များအတိုင်း ကုမ္ပဏီနှင့်ညှိနှိုင်း၍ ယင်းစာချုပ်(မူကြမ်း)တွင် ဖြည့်စွက်ပြင်ဆင်ပြီးဖြစ်ပါ၍ **နောက်ဆက်တွဲ(ခ)**ဖြင့် ဖော်ပြအပ်ပါသည်။

၄။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တုအကြီးစား တူးဖော်ထုတ်လုပ်မှုလုပ်ငန်းနှင့်စပ်လျဉ်းပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော

ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီး ဌာန၊ ညွှန်ကြားရေးမှူးရုံး တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့မှ ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**ဖြင့် ဖော်ပြထားပါသည်။

၅။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံစာအား **နောက်ဆက်တွဲ (ဃ)** ဖြင့် ဖော်ပြအပ်ပါသည်။

၆။ ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၇.၈.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၇/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးမှ ခဲမဖြူ အဖြိုက်နက်ရောရာသတ္တုအကြီးစား တူးဖော်ထုတ်လုပ်ရေးလုပ်ငန်းများကို သဘောတူ စာချုပ်ချုပ်ဆို၍ (၁၀)နှစ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပြီး **နောက်ဆက်တွဲ(င)**ဖြင့် ဖော်ပြအပ်ပါသည်။

၇။ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် အမျိုးသားစီမံကိန်းနှင့်စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၏ ကုမ္ပဏီများမှတ်ပုံတင်ဌာနတွင် ကုမ္ပဏီဖွဲ့စည်းထားပြီးဖြစ်ပါကြောင်း၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ ကုမ္ပဏီသင်းဖွဲ့မှတ်တမ်း၊ ကုမ္ပဏီသင်းဖွဲ့စည်းမျဉ်းစသည့် အထောက်အထား၊ စာရွက် စာတမ်းများနှင့်ကုမ္ပဏီ၏ ငွေကြေးခိုင်မာမှုနှင့် စပ်လျဉ်းပြီး မြန်မာ့အရှေ့တိုင်းဘဏ်၏ (၁၉.၁၀.၂၀၁၅) ရက်စွဲပါ အထောက်အထား ထောက်ခံချက်အား **နောက်ဆက်တွဲ(စ)**ဖြင့် ဖော်ပြအပ်ပါသည်။

၈။ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်နှင့် ပူးပေါင်းလုပ်ကိုင်ဆောင်ရွက်မည့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိလုပ်ကွက်တွင် ခဲမဖြူ အဖြိုက်နက်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်မည့်လုပ်ငန်းအတွက် ချုပ်ဆိုမည့်စာချုပ်နှင့် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုလွှာပါ အဓိက အချက်အလက်အချို့အား အောက်ပါအတိုင်း ကောက်နုတ်တင်ပြအပ်ပါသည် -

| | | | | |
|---|---|---|---|---|
| (က) | ကုမ္ပဏီအမည် | - | ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် | |
| (ခ) | ကုမ္ပဏီဒါရိုက်တာအဖွဲ့ဝင်များ | - | ဦးတင်မြင့် | မန်နေးဂျင်းဒါရိုက်တာ |
| | | | ဦးရှိကျော်ဆိုင် | ဒါရိုက်တာ |
| | | | ဒေါ်စန်းစန်းမြင့် | ဒါရိုက်တာ |
| | | | ဒေါ်နန်းခင်မေ | ဒါရိုက်တာ |
| | | | ဦးကျော်ဇင်မြင့် | ဒါရိုက်တာ |
| | | | ဦးကျော်မင်းထွန်း | ဒါရိုက်တာ |
| (ဂ) | စာချုပ်သက်တမ်း | - | ထုတ်ထောင်မှုကာလ(၁)နှစ်အပါအဝင် သက်တမ်း(၁၀)နှစ် | |

| | | | |
|---|---|---|---|
| (ဃ) | အဆိုပြုတန်ဖိုး | - | ကျပ်သိန်း(၄၀၀)(ကျပ်သိန်းလေးရာတိတိ) |
| (င) | ရင်းနှီးမြှုပ်နှံမှုပမာဏ | - | ကျပ်သန်း(၅၀၀)နှင့် အမေရိကန်ဒေါ်လာ(၇၄၀၀၀၀)<br>လုပ်ငန်းတွင်သုံးစွဲရန် လိုအပ်သော စက်ယန္တရားများ နှင့် ယာဉ်များကို နောက်ဆက်တွဲ(က) Exhibit No (III)ပါအတိုင်း ပြည်ပမှတင်သွင်းရန်ဖြစ်ပါသည်။ |
| (စ) | အာမခံစပေါ်ငွေ | - | ကျပ်(၁၀၀)သိန်း |
| (ဆ) | တစ်နှစ်ထုတ်လုပ်နိုင်မည့် ခဲမဖြူ အဖြိုက်နက်ရောရာ | - | ဘူမိဗေဒလေ့လာရေး နှင့် ဓာတ်သတ္တုရှာဖွေရေး ဦးစီးဌာနမှ အစီရင်ခံစာအရ သတ္တုသိုက်ပမာဏ ခဲမဖြူသတ္တု သန့်စင် (၁၀၇၈.၀၈) မက်ထရစ်တန် ရှိပါသည်။ |
| (ဇ) | ဓာတ်သတ္တုခွန် | - | ထုတ်လုပ်မှုအားလုံးအပေါ် (၄ %) |
| (ဈ) | ခွဲဝေမှုအချိုး | - | ဓာတ်သတ္တုခွန်(၄ %) နှုတ်ပြီးကျန် (၉၆%) မှ<br>အမှတ်(၂)သတ္တုတွင်းလုပ်ငန်း(၃၀%)၊ကုမ္ပဏီ(၇၀%) |
| (ည) | နိုင်ငံတော်မှ (တစ်နှစ်)ရရှိမည့် သတ္တုအချိုး | - | (၁၆.၄) မက်ထရစ်တန် |
| (ဋ) | ပုံသေမြေငှားရမ်းခ | - | တစ်စတုရန်းကီလိုမီတာ တစ်နှစ်ငှားရမ်းခ<br>ထူထောင်မှုကာလတွင်(၁၈၀၀၀၀ဝိ/-)နှုန်း<br>ထုတ်လုပ်မှုကာလတွင် (၃၀၀၀၀၀ဝိ/-) |
| (ဌ) | အခွန်အကောက်များ | - | နိုင်ငံတော်အစိုးရမှအခါအားလျော်စွာသတ်မှတ်ပြဋ္ဌာန်းထားသော အခွန်အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရန် သတ်မှတ်ထားပါသည်။ ပြည်ပတွင် ပေးရန်ရှိသောအခွန်အကောက်များကိုကန်ထရိုက်တာမှ ပေးဆောင်ရန် သတ်မှတ်ထားပါသည်။ |
| (ဍ) | စီမံခန့်ခွဲမှုစနစ် | - | လုပ်ငန်းအား စနစ်တကျ စီမံခန့်ခွဲရန် နှစ်ဖက်ကိုယ်စားလှယ်များပါဝင်သော စီမံခန့်ခွဲမှုကော်မတီ (Joint Management Committee ) တစ်ရပ်ကို ဖွဲ့စည်းဆောင်ရွက်မည်ဖြစ်ပြီး နေ့စဉ်လုပ်ငန်းရပ်များအား ကုမ္ပဏီမှခန့်ထားမည့်အထွေထွေမန်နေဂျာမှ တာဝန်ယူဆောင်ရွက်မည်ဖြစ်ပါသည်။ |
| (ဎ) | အနုညာတစီရင်ဆုံးဖြတ်ခြင်း | - | ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် |

ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍ မရပါကထိုအငြင်းပွားမှုကိုတစ်ဖက်တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီး နှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီး ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်၊ ၄/ ၁၉၄၄) နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော် ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကိုအမှုရှုံးသူကကျခံရမည်။

၉။ ဤလုပ်ငန်းအား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပါ၍ လုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်အားလုံးကို ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ကျခံဆောင်ရွက်မည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၀)ပါ အောက်ပါ ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် ဖော်ပြအပ်ပါသည် -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၅)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ် ခွင့်ပြုပါရန်၊

(ခ) အထက်အပိုဒ်(က)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ပြုရန်၊

(ဂ) အထက်အပိုဒ်(က)ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း (၂)နှစ် အတွင်း အမှန်တကယ် ပေါက်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့်နှစ်မှ တစ်ဆက်တည်း (၃)နှစ်ကာလအထိ သယ်ယူနှိမ်ခွင့်ပြုပါရန်၊

( ဃ) ယာဉ်ယန္တရားစက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အဦ (သို့မဟုတ်) လုပ်ငန်းသုံးအခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်း တန်ဖိုးလျော့ တွက်နှုန်းများအတိုင်း တွက်ချက်ပြီး၊ ပစ္စည်းတန်ဘိုးလျော့ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်ပြုပါရန်၊

( င ) ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်းမှ မရနိုင်သည့် အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ရင်းနှီးမြှုပ်နှံမှုအဖြစ် ပြည်ပမှ တင်သွင်းမည့် Exhibit No (III) ပါ အမေရိကန်ဒေါ်လာ (၇၄၀၀၀၀) (US$ 740000)တန်ဖိုးရှိ လုပ်ငန်းသုံးစက်ယန္တရား (၁၀)မျိုး တင်သွင်းခွင့်ပြုပါရန်နှင့် စက်ပစ္စည်းများ၊ စက်အရံပစ္စည်း၊ စက်ကိရိယာ၊ စက်ကိရိယာအစိတ်အပိုင်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ပြုပါရန်၊

( စ ) ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ကုန်ထုတ်ရန်တင်သွင်းခွင့်ပြုသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ (၂)မျိုးစလုံးဖြစ်စေ ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်ပြုပါရန်။

၁၀။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယပုံဒေသရှိလုပ်ကွက်တွင် ခဲမဖြူအဖြိုက်နက် ရောရာသတ္တုအကြီးစားထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ထုတ်လုပ်ခွင့်ပြုနိုင်ရေး လိုအပ်သလို ဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းအပ်ပါသည်။

<u>ပူးတွဲ(၁)အုပ်</u>

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ရွှေအောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
အဆိုပြုချက်

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

နှင့်

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

တို့၏

ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့်

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊
ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိ ယမုံလုပ်ကွက်တွင်
ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရောသတ္တု
အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်း

**SHWE PIN LE MINING & INDUSTRY CO.,LTD.**
No. 189, Ground Floor, 52-Sub-Street, Thukha Street, Hlaing Township, Yangon, Myanmar
Phone : 01-524190, 01-521506

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

စာအမှတ်၊ / စီမံကိန်း / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၂၉)ရက်

အကြောင်းအရာ။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိ ယမုံလုပ်ကွက်တွင် ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း။

၁။ ကျွန်တော်များ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိယမုံလုပ်ကွက်၊ စီမံကိန်းဧရိယာဧက (၅၇၂.၀)တွင် ခဲမဖြူ အဖြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုမိန့်တောင်းခံသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းစီမံကိန်းကို အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) ယခုအဆိုပြုလုပ်ငန်းကို အကြီးစားသတ္တုတူးဖော်ထုတ်လုပ်မှု လုပ်ငန်းအဖြစ်လုပ်ကိုင်သွားမည်ဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့ရက်မှစ၍(၁)နှစ်အတွင်း လိုအပ်သော စက်ယန္တယားများဝယ်ယူတင်သွင်း၍ ထုတ်လုပ်မှုလုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(ခ) ကျွန်တော်များကုမ္ပဏီအနေဖြင့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပြီး ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တု (Tin & Tungsten Mixed Concentrate)များကိုတစ်နှစ်လျှင် တန်ချိန်(၇၀) ထုတ်လုပ်၍ ပြည်ပနိုင်ငံများသို့ တင်ပို့ရောင်းချသွားရန် ရည်ရွယ်ထားပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုစီမံကိန်းအတွက် နိုင်ငံခြားငွေ US$ (0.740)သန်း အပါအဝင် စုစုပေါင်းကျပ်သန်း(၁၀၀၀)ရင်းနှီးသွားမည် ဖြစ်ပါသည်။

၄။ ကျွန်တော်များကုမ္ပဏီမှ ဤစီမံကိန်းကို အကြီးစားလုပ်ကိုင်နိုင်ခြင်းဖြင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖြစ်ပေါ်လာစေမည့်အပြင် ဒေသခံလူငယ်များအတွက် နည်းပညာနှင့်ကျွမ်းကျင်မှုဆိုင်ရာအခွင့်အလမ်းများ ထွက်ပေါ်လာမည်ဖြစ်ခြင်းကြောင့် ဒေသခံပြည်သူများ၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်၍ ဆင်းရဲနွမ်းပါးမှုကို လျှော့ချနိုင်မည်ဖြစ်ပါသည်။

SHWE PIN LE MINING & INDUSTRY CO.,LTD.
No. 189, Ground Floor, 52-Sub-Street, Thukha Street, Hlaing Township, Yangon, Myanmar.
Phone : 01-524190, 01-521506



၅။ သို့ပါ၍ ကျွန်တော်များကုမ္ပဏီအား တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိယမုံလုပ်ကွက်တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်းကိုလုပ်ကိုင်ခွင့်ပြုပါရန် သတ်မှတ်ပုံစံများ၊ ရှင်းလင်းချက်များ၊ ဝန်ခံချက်များ၊ လိုအပ်သည့် အထောက်အထားများဖြင့် အဆိုပြုတင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U TIN MYINT
Managing Director
SHWE PIN LE MINING & INDUSTRY CO.,LTD.

**SHWE PIN LE MINING & INDUSTRY CO.,LTD.**

No. 189 , 52-Sub-Street, Thukha Street, Hlaing Township, Yangon, Myanmar.

Phone : 01-524190, 01-721603

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ (၂၀ )ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိယမုံလုပ်ကွက်၊ စီမံကိန်းဧရိယာဧက (၅၇၂. ၀)တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော်ထုတ်လုပ်မှုလုပ်ငန်းကို (**Production Sharing Contract Basic**)စံနစ်ဖြင့် အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ပူးပေါင်းထုပ်လုပ်ရန် ညှိနှိုင်းပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၀)တွင်ဖော်ပြထားသည့် ခွင့်ပြုမိန့်ကိုထုတ်ပြန်ပေးနိုင်ပါရန်နှင့် အောက်ပါအချက်အလက်များကို သိရှိလိုက်နာပါမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

၁။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းတစ်ခုဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

၂။ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ တူးဖော်ထုတ်လုပ်ရရှိသည့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများကို ပြည်ပသို့တင်ပို့ရောင်းချရန် ဈေးကွက် အခိုင်အမာရှိပြီး ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း လူမှုဘဝနှင့်သဘာဝပတ်ဝန်းကျင် လေထုရေထု ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ထို့ပြင် ယခုအဆိုပြုလွှာတွင်ဖော်ပြသည့် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုများ အကြီးစားတူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပြီးမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U TIN MYINT
Managing Director
SHWE PIN LE MINING & INDUSTRY

(၃.၁၂.၂၀၁၃)ရက်နေ့တွင်ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၃) ဆုံးဖြတ်ချက်အပိုဒ်(၄၁)အရ လွတ်ကင်းမှုရှိသည့် မြေဧရိယာ(၅၇၂)ဧကအား သတ္တုတွင်းဝန်ကြီးဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူ

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန**

နေပြည်တော်

စာအမှတ်၊ ၅၃၇၄ / ၂၂၈၆ / ဘစမ / ၂၀၁၃

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ၂၁ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏစိစစ်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ ၁၂.၈.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၅၅၈/ ခဲဖြူ(က်- အကြီးစား(ရွှေပင်လယ်)/ ၁၃

၁။ တနင်္သာရီတိုင်းဒေသကြီး မြိတ်ခရိုင် ကျွန်းစုမြို့နယ် ကျွဲခရံကျေးရွာအုပ်စု ယမုံဒေသ (မြေပုံညွှန်း ၉၅ အယ်လ်/ ၁၂ ဝိုင်-၇၂၅၃၆၀) ရည်ညွှန်း (၈၄၆ ဧက) လုပ်ကွက် တွင် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် စမ်းသပ်တိုင်းတာရေးအစီရင်ခံစာအား ဤဦးစီးဌာန၏ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ ကုမ္ပဏီ၏ စမ်းသပ်တိုင်းတာရေးအစီရင်ခံစာတွင် လုပ်ကွက်တစ်ခုလုံးသည် ကာဘွန်နီဖားရပ်မှ ပါမီယမ် သက်တမ်းမြိတ်ကျောက်လွှာအုပ်စုမှ စရစ်လုံးပါသဲကျောက်နှင့် ရွှံ့ကျောက်များ၊ ဂရေးဝက်ကီကျောက်များ၊ အာဂျီလိုက်ကျောက်များဖြင့် ပို့ချထားကြောင်း၊ အနီးဝန်းကျင်တွင် တိုးဝင်မီးသင့်ကျောက် Granite ကျောက်စိုင် ထုငယ်တစ်ခုရှိကြောင်း၊ လုပ်ကွက်အတွင်း မြေလွှာဖုံးအုပ်မှုကောင်းသဖြင့် ကျောက်လွှာပေါ်ထွက်ပိုင်းရှားပါး ကြောင်း ဘူမိဗေဒအား ရှင်းလင်းတင်ပြထားပါသည်။

၃။ ကုမ္ပဏီသည် လုပ်ကွက်အတွင်း မြေပြင်ကွင်းဆင်းတိုင်းတာရေးလုပ်ငန်းများ ဆောင်ရွက်ခဲ့ပြီး ၁၀ ပေ ခြားမြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ လုပ်ကွက်ကြီးအတွင်း လုပ်ကွက်ငယ် A,B,C,D ဟူ၍ ခွဲခြားကာ လုပ်ကွက်ငယ် ၄ ခုမှ ဘန်ကာလွန်တွင်းများ စုစုပေါင်း ၄၇ တွင်း တူးဖော်စမ်းသပ်တိုင်းတာထားခြင်း Bore hole အလိုက် log sheet များ Block တစ်ခုခြင်းအတွင်း Line by Line နှင့် Block တစ်ခုလုံး average ground value, thickness calculation တို့ ပြည့်စုံစွာ တွက်ချက်တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ဤဦးစီးဌာနသည် မြေပြင်ကွင်းဆင်းစစ်ဆေးဆောင်ရွက်နိုင်ခြင်းမရှိသော်လည်း ကုမ္ပဏီအနေဖြင့် မြေပြင်နိမ့်မြင့်ပြမြေပုံရေးဆွဲထားခြင်း၊ ဘန်ကာလွန်တွင်းများ တူးဖော်၍နမူနာစနစ်တကျ ခွဲခြမ်းစိတ်ဖြာ ထားခြင်း၊ မြေပုံ၊ ခတ်ပုံနှင့် ဖြတ်ပိုင်းပုံများ ပြည့်စုံစွာ တင်ပြထားခြင်း၊ တန်ချိန်တွက်ချက်ပုံနည်းစနစ်မှန်ကန်ခြင်းတို့ ကြောင့် ပျမ်းမျှခဲမဖြူပါဝင်နှုန်း ၀.၄၆ ပေါင်/ကုဗကိုက်ရှိပြီး (သ-၃)အဆင့် Concentrate ၁၀၇၈.၀၈ တန်သည် လက်ခံနိုင်ဖွယ်ရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

(ကျော်ဒင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

## ကျေးရွာအုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်

ရက်စွဲ၊ ( ၁၉ - ၃ - ၂၀၁၃ )

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသ၌ ရွှေပင်လယ်သတ္တု တူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ အသေးစားဖက်စပ်သတ္တုထုတ်လုပ်မှုကို ၂၀၁၁ ခုနှစ်မှစတင် ထုတ်လုပ်လာခဲ့ရာ ဒေသခံအလုပ်သမား(၂၀၀)ကျော်၊ အလုပ်ရရှိပြီးအပြင် လမ်းနှင့်စာသင်ကျောင်းများ ဖွံ့ဖြိုးရေးကိုလည်း ကူညီပံ့ပိုးခဲ့ပါသည်။ ယခုအခါ လုပ်ပိုင်ခွင့်ရဧရိယာ ကုန်ဆုံးတော့မည်ဖြစ်၍ အသစ်အကြီးစား ပြန်လည် လျှောက်ထားမည့်ဧရိယာသည် ပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင်ဆောင်ရွက်မည်ဟု ကုမ္ပဏီမှ တာဝန်ယူသည့်အပြင် တောင်သူများထိခိုက်မှုရှိပါက တောင်သူများကျေနပ်သည်အထိ ဆောင်ရွက်ပေးရန် တာဝန်ယူကြောင်း ကတိပြုပါသဖြင့် ၎င်းတို့ရင်းနှီးမြှုပ်နှံထားရသော စက်ယန္တရားများနှင့် အလုပ်သမားများ၏ ဘဝရပ်တည်ရေးကိုပါ ထောက်ရှုပါသဖြင့် ၎င်းလျှောက်ထားသော တောင်သူများ စိုက်ပျိုးမြေလွတ်ကင်းမှုရှိသည့် မြေဧရိယာ(၅၇၂)ဧကအား ခွင့်ပြုပေးသင့်ကြောင်း ထောက်ခံအပ်ပါသည်။

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ကျွဲခရုံကျေးရွာအုပ်စု
ကျွန်းစုမြို့နယ်

ရက်စွဲ ...............
ကျွဲခရန်ကျေးရွာအုပ်စု

# ရပ်မိ/ရပ်ဖများ၏ သဘောထားမှတ်ချက်

ရက်စွဲ၊ ( ၁၉-၃-၂၀၁၅ )

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ လျှောက်ထားသော ဧရိယာသည် ကျေးရွာအုပ်ချုပ်ရေးမှူးနှင့်မြေစာရင်းများမှ စိစစ်တိုင်းတာ၍ ကုမ္ပဏီမှလည်း ပတ်ဝန်းကျင်ထိခိုက်မှုများမရှိစေရန်နှင့် တောင်သူများထိခိုက်နစ်နာပါက ပြေလည်အောင်ညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသဖြင့် ဒေသအတွင်းဖွံ့ဖြိုးရေးထောက်ရှုသောအားဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း အောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | နေရပ် | လက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးလှရီ | ၆/ကမန(နိုင်)၁၁၂၃၂၃ | ယာမုံ | [signature] |
| ၂။ | ဦးအောင်လွင် | ၆/ကမန(နိုင်)၀၀၆၆၂၃ | ယာမုံ | [signature] |
| ၃။ | ဦးဟောင်အောင် | ၆/ကမန(နိုင်)၀၀၈၆၉၂၀ | ယာမုံ | [signature] |
| ၄။ | ဦးဘရံ | ၆/ကမန(နိုင်)၀၀၉၉၂၃ | ယာမုံ | [signature] |
| ၅။ | ဦးအေးဝင်း | ၆/ကမန(နိုင်)၀၉၃၈၄၃ | ယာမုံ | [signature] |
| ၆။ | | | | |
| ၇။ | | | | |
| ၈။ | [illegible] | | | |
| ၉။ | [illegible] | | | |
| ၁၀။ | [illegible] | | | |

[signature]

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး
ကျွဲခရန်ကျေးရွာအုပ်စု
ကျွန်းစုမြို့နယ်

မှတ်(၂)သတ္တုတွင်းလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**အမှတ်(၂)သတ္တုတွင်းလုပ်ငန်း**

နေပြည်တော်

စာအမှတ်၊ ၁၆၆၈ /ခဲဖြိုက်-အကြီးစား(ရွှေပင်လယ်)/၁၄

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်

သတ္တုတွင်းဦးစီးဌာန

အကြောင်းအရာ။ **မြေပိုင်ရှင်တောင်သူ(၅၇)ဦး၏ သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။

(၁) အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ (၂၂.၉.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၁၅၂၈/ ခဲဖြိုက်-အကြီး(ရွှေပင်လယ်)/၁၄

(၂) သတ္တုတွင်းဦးစီးဌာန၏ (၂၆.၉.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၉၉၈၇/ဓဖရ/ ခဲဖြိုက် (၃)/ ရပလ/၂၀၁၄

၁။ ရွှေပင်လယ်သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရန် ကျေးရွာအုပ်စု မြေဧရိယာ(၅၇၂)ဧကတွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် လျှောက်ထားခဲ့ခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ခြင်းရှိ/မရှိ အတည်ပြုချက်သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံခဲ့ရာ အဆိုပါဧရိယာနှင့်ဆက်စပ်လျှက်ရှိသည့် မြေပိုင်ရှင် တောင်သူ(၅၇)ဦးတို့၏ သဘောတူညီမှုရရှိရန်လိုအပ်ပါကြောင်း ညွှန်ကြားခဲ့ပါသည်။

၂။ ယခုအခါ ကုမ္ပဏီမှ အဆိုပါဧရိယာနှင့်ဆက်စပ်လျှက်ရှိသည့် တောင်သူ(၅၇)ဦးမှ သဘောတူပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်တင်ပြလာပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ခြင်းရှိ/မရှိ အတည်ပြုချက် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညွှန်ကြားအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)

အေးဇော်၊ ညွှန်ကြားရေးမှူး(ထုတ်လုပ်)

မိတ္တူကို

ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန

ရုံးလက်ခံ

မျှောစာတွဲ

Su/JVT/All-purpose

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

နေပြည်တော်

စာအမှတ်၊ ၁၅၂၈ /ခဲဖြူ၊ကြိ-အကြီး(ရွှေပင်လယ်)/၁၄

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၂ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်

သတ္တုတွင်းဦးစီးဌာန

အကြောင်းအရာ။ **ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ခြင်းရှိ/မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းခြင်း**

ရည်ညွှန်းချက်။

(၁) အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ (၁၈.၇.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၁၀၁/ ခဲဖြူ၊ကြိ-အကြီး(ရွှေပင်လယ်)/ ၁၄ **(ပူးတွဲ-က)**

(၂) ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန၏ (၂၄.၇.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၅ ခွဲ (၂) ၁၄ (၇၄၄၆) **(ပူးတွဲ-ခ)**

(၃) ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏(၁၄.၈.၂၀၁၄) ရက်စွဲပါ တင်ပြစာ **(ပူးတွဲ-ဂ)**

(၄) အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ (၁၈.၈.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၂၉၅/ ခဲဖြူ၊ကြိ-အကြီး(ရွှေပင်လယ်)/ ၁၄ **(ပူးတွဲ-ဃ)**

(၅) ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန၏ (၂၄.၈.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၅ ခွဲ (၂) ၁၄ (၈၈၁၆) **(ပူးတွဲ-င)**

(၆) သတ္တုတွင်းဦးစီးဌာန၏ (၁.၉.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၉၁၁၉/ စဆရ/ ခရရ (၈)/ CSR/ ၂၀၁၄ **(ပူးတွဲ-စ)**

(၇) ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန၏ (၈.၉.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၅ ခွဲ (၂) ၁၄ (၉၄၈၆) **(ပူးတွဲ-ဆ)**

(၈) အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ (၁၂.၉.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၄၇၈/ ခဲဖြူ၊ကြိ-အကြီး(ရွှေပင်လယ်)/ ၁၄ **(ပူးတွဲ-ဇ)**

(၉) ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန၏ (၁၇.၉.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၅ ခွဲ (၂) ၁၄ (၉၈၀၈) **(ပူးတွဲ-ဈ)**

၁။ ရွှေပင်လယ်သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသ ခန့်မှန်းမြေပုံညွှန်း၊ 95 L/12 (A-725360, B-738320, C-753320, D-753326, E-746326, F-742339, G-734339, H-734345, I-740345, J-740350, K-735350, L-735354, M-739355, N-738361) တစ်ဝိုက် မြေဧရိယာ(၅၇၂)ဧကတွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် သက်ဆိုင်ရာ အချက်အလက်များနှင့်အတူ တင်ပြလာပါသဖြင့် ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြခဲ့ပါသည်။ **(ပူးတွဲ-က)**

၂။ အထက်ပါ တင်ပြမှုအပေါ် ပြည်ထောင်စုဝန်ကြီးက " CSR အတွက် အကျိုးအမြတ်အပေါ် ခွဲဝေပေးသည့် ရာခိုင်နှုန်းနှင့် Mine Closure Plan အတွက် နှစ်စဉ်ခွဲဝေမှုဖော်ပြရန်" မိန့်မှတ်ခဲ့ပါသဖြင့် ဌာနတာဝန်ရှိသူများနှင့်ကုမ္ပဏီ၏ တာဝန်ရှိသူများ နှစ်ဖက်ညှိနှိုင်းဆွေးနွေးခဲ့ရာတွင် နှစ်စဉ်ထုတ်လုပ်ရန် လျာထားချက်သတ္တုသန့်စင်(၅၀)မက်ထရစ်တန် အပေါ် (၂%)ဖြစ်သော သတ္တုသန့်စင်(၁)မက်ထရစ်တန်၏ ကျသင့် တန်ဖိုးငွေ (လက်ရှိပေါက်ဈေး (၁)တန် US$ -၈၁၅၃.၆ x ၉၇၅ ကျပ်နှုန်းဖြင့် စုစုပေါင်း ၇၉၄၉၇၆၀ ကျပ်ခန့် )အား CSR အတွက် လည်းကောင်း၊ (၀.၅၀) မက်ထရစ်တန်၏ ကျသင့်တန်ဖိုးငွေ (လက်ရှိပေါက်ဈေး (၀.၅၀)တန် US$ -၄၀၇၆၈ x ၉၇၅ ကျပ်နှုန်းဖြင့် စုစုပေါင်း ၃၉၇၄၈၈၀ ကျပ်ခန့်) အား Mine Closure Plan အတွက်လည်းကောင်း ဆောင်ရွက်သဘောတူညီမှုရရှိခဲ့မှုအပေါ် ကုမ္ပဏီမှလည်း ပြန်လည် တင်ပြလာပါသဖြင့် ရည်ညွှန်းချက်(၂)ပါစာဖြင့် တင်ပြခဲ့ပါသည်။ **(ပူးတွဲ-ခ) (ပူးတွဲ-ဂ) (ပူးတွဲ-ဃ)**

၃။ အဆိုပါ တင်ပြမှုအပေါ် ပြည်ထောင်စုဝန်ကြီးက သတ္တုတွင်းဦးစီးဌာနသို့ **"စိစစ်ပေးပါ"** ဟု မိန့်မှတ်ပါသဖြင့် စိစစ်တင်ပြရန် အကြောင်းကြားခဲ့မှုအပေါ် သတ္တုတွင်းဦးစီးဌာနမှ စိစစ်၍ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသလုပ်ကွက် ခဲမဖြူ အဖြိုက်နက်အကြီးစားထုတ်လုပ်မှုလုပ်ငန်းအား (CSR) အတွက် ထုတ်လုပ်မှုတန်ချိန်၏ (၂%)တို့နှင့် Mine Closure Planအတွက် ထုတ်လုပ်မှုတန်ချိန်၏ (၁%)တို့ ရန်ပုံငွေထူထောင်ထားရှိရန် စီစဉ်ဆောင်ရွက်ထားရှိမှုသည် ယဟ်ရှိဖ်အမြဲ့အနေနှင့် ဆီလျော်မှုရှိကြောင်း တင်ပြမှုအပေါ် **"တင်ပြလာသော အချက်များအတိုင်း သိရှိလိုက်နာ ဆောင်ရွက်သွားရန်"** အကြောင်းကြားခဲ့ပါသည်။ **(ပူးတွဲ-င)၊ (ပူးတွဲ-စ)၊ (ပူးတွဲ-ဆ)**

၄။ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစု မြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသ ခန့်မှန်းမြေပုံညွှန်း၊ 95 L/12 တစ်ဝိုက် မြေဧရိယာ(၅၇၂)ဧကရှိ လုပ်ကွက်တွင် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် လျှောက်ထားမှုမှာ သတ်မှတ်အချက်အလက်များ ပြည့်စုံညီညွတ်မှုရှိပါသဖြင့် တူးဖော်ထုတ်လုပ်ခွင့်ရရှိရေးအတွက် ဝန်ကြီးရုံးသို့ ရည်ညွှန်းချက်(၈)ပါစာဖြင့် တင်ပြခဲ့ရာ ရည်ညွှန်းချက်(၉)ပါစာဖြင့် "**သတ္တုတွင်းဦးစီးဌာန၏ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ကြောင်း အစည်းပြုချက်နှင့်အတူ သတ္တုတွင်း ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးသို့ တင်ပြရန်**" အကြောင်းကြားခဲ့ပါသည်။

၅။ သို့ဖြစ်ပါ၍ ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစု မြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသ ခန့်မှန်းမြေပုံညွှန်း၊ 95 L/12 တစ်ဝိုက် မြေဧရိယာ(၅၇၂)ဧကရှိ လုပ်ကွက်တွင် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုတူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ခြင်းရှိ/မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအပ်ပါသည်။

သံဒိုင်
ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို
ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

JV(Tin)/Myay matter /annotation Attitude

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**သတ္တုတွင်းဦးစီးဌာန**
နေပြည်တော်

စာအမှတ်၊ [illegible] /ဖေရ/ခဲဖြူ(၃)/ရပလ/၂၀၁၄
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၆ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **ခဲမဖြူ-အဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစား တူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ခြင်း ရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းခြင်း**

ရည်ညွှန်းချက် ။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ ၂၂.၉.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၅၂၈/ ခဲဖြိုက်-အကြီး(ရွှေပင်လယ်)/၁၄

၁။ ရွှေပင်လယ်သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျဲခရန်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၅၇၂)ဧကတွင်ခဲမဖြူ-အဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစားတူးဖော်ထုတ်လုပ်ခွင့်ပြုရန်လျှောက်ထားခြင်းအပေါ်အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ သက်ဆိုင်ရာ အချက်အလက်များနှင့်အတူ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ခြင်း ရှိ/မရှိ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာနှင့်အတူ ညှိနှိုင်းအကြောင်းကြား လာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ ရွှေပင်လယ်သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်မှ မူလလျှောက်ထား ဧရိယာ(၈၄၆)ဧက အတွင်း တောင်သူ(၅၇)ဦး၏ မြေဧရိယာ(၂၇၄)ဧကခန့် ပါဝင်နေသဖြင့် အဆိုပြု ဧရိယာအား ချန်လှပ်၍ မြေဧရိယာ(၅၇၂)ဧကတွင် သတ္တုတူးဖော်ခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းဖြစ်ပါသည်။ ဒေသခံ(၁၀)ဦးမှသာ ကန့်ကွက်ရန်မရှိကြောင်း လက်မှတ်ရေးထိုးထားပါသည်။

၃။ မြန်မာ့သတ္တုတွင်းနည်းဥပဒေများအခန်း(၁၄)၊ ဓာတ်သတ္တုထုတ်လုပ်ရန် မြေနှင့်ရေသုံးစွဲခွင့် ၊ အပိုဒ် ၇၀ (ခ) (၂)တွင် စိုက်ပျိုးရန် ပြုပြင်ထားသော သို့မဟုတ် သီးနှံစိုက်ပျိုးထားသော မြေနေရာနှင့် မီတာ (၅၀)အတွင်း ရှိသောမြေနှင့် (ခ)(၃)တွင် သီးနှံများအား လတ်တလော ရိတ်သိမ်းပြီးဖြစ်သည့်

စိုက်ပျိုးမြေနေရာဖြစ်ပါက သက်ဆိုင်ရာ မြေပိုင်ရှင်၊ မြေကို လက်ဝယ်ရှိသူ (သို့မဟုတ်) မြေပိုင်ရှင်၏ တရားဝင်ကိုယ်စားလှယ်၏ စာဖြင့် သဘောတူညီချက် ရယူရမည်ဟု ပါရှိပါသည်။

၄။ သို့ပါ၍ ကုမ္ပဏီမှ ခဲမဖြူ-အဖြိုက်နက်နှင့်ရောရာသတ္တု တူးဖော်ထုတ်လုပ်မည့် မြေဧရိယာ (၅၇၂)ဧကတွင် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရန် အတွက် ဆက်စပ်လျက်ရှိသည့် မြေပိုင်ရှင် တောင်သူ (၅၇)ဦးတို့၏ သဘောတူညီမှု ရရှိရန် လိုအပ်ပါကြောင်း ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ဝင်းထိန်
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို-

ဝန်ကြီးရုံး၊ သတ္တုတွင်းဝန်ကြီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

**SHWE PIN LE MINING & INDUSTRY CO.,LTD.**

No. 189 , 52-Sub-Street, Thukha Street, Hlaing Township, Yangon, Myanmar.
Phone : 01-524190, 01-721603


SHWE PIN LE MINING & INDUSTRY CO.,LTD.
No. ..........
Date ..........

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း
နေပြည်တော်

အကြောင်းအရာ။ **တောင်သူ(၅၇)ဦး၏ သဘောထားမှတ်ချက်တင်ပြပေးရန် အကြောင်းကြားခြင်း**

ရည် ညွှန်း ချက် ။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏(၁.၁၀.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၁၆၀၂/ ခဲဖြိုက်-အကြီး (ရွှေပင်လယ်)/၂၀၁၄

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ယမုံဒေသရှိ မြေဧရိယာ(၅၇၂)ဧကတွင် ခဲမဖြူ၊အဖြိုက်နက်နှင့်ရောရာသတ္တု တူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားမှုနှင့်ပတ်သက်၍ ရည်ညွှန်းပါစာဖြင့်တောင်းခံလာမှုအပေါ် အဆိုပါမြေဧရိယာနှင့် ဆက်စပ်လျက်ရှိသည့် တောင်သူ(၅၇)ဦး၏ သဘောတူပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် နှင့်အတူ လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U TIN MYINT
Managing Director
SHWE PIN LE MINING & INDUSTRY CO.,LTD.

ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာအုပ်စု၊ ယမုံဒေသရှိ မြေ (၅၇၂)ဧကတွင် ခဲမဖြူသတ္တုတူးဖော်ထုတ်လုပ်ခွင့် လျှောက်ထားခြင်းအပေါ် (၅၇၂)ဧကနှင့် တစ်ဆက်တစ်စပ်တည်းရှိသည့် မြေပိုင်ရှင်များအနေဖြင့် သဘောတူပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံအပ်ပါသည်။

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | လက်မှတ် |
|---|---|---|---|
| ၁ | ဒေါ်လှ | မရှိ | [signature] |
| ၂ | မောင်မြဇင် | [illegible] | [signature] |
| ၃ | ဦးမောင်တင် | ၆/ကသန(နိုင်)၀၃၂၀၀၃ | [signature] |
| ၄ | ဦးသိုင်းတင် | မရှိ | [signature] |
| ၅ | ဦးကြီးစိန် | မရှိ | [signature] |
| ၆ | ဦးမောင်တင် | ၆/ကသန(နိုင်)၀၃၂၀၀၃ | [signature] |
| ၇ | ဦးဝင်းဘို | မရှိ | [signature] |
| ၈ | ဦးဉာဏ်မြင့် | [illegible] | [signature] |
| ၉ | ဦးရွှေငုံ | မရှိ | [signature] |
| ၁၀ | ဦးအိုစီ | ၆/ကသန(နိုင်)[illegible] | [signature] |
| ၁၁ | ဦးဝင်းဦး | [illegible] | ဝင်းဦး |
| ၁၂ | ဦးတင်အေး | မရှိ | [signature] |
| ၁၃ | ဦးလှဝင်း | [illegible] | [signature] |
| ၁၄ | ဦးစိုးနိုင် | [illegible] | [signature] |
| ၁၅ | ဦးဖေချုပ် | မရှိ | ဦးဖေချုပ် |
| ၁၆ | မောင်စံရွှေ | မရှိ | [signature] |
| ၁၇ | မောင်အိုသီး | ၆/ကသန(နိုင်)[illegible] | အိုသီး |
| ၁၈ | ဦးနောင်ပု | [illegible] | [signature] |
| ၁၉ | ဦးအေးထွန်းဖေ | ၆/ကသန(နိုင်)[illegible] | [signature] |
| ၂၀ | ဦးထွန်းဖေ | မရှိ | ထွန်းဖေ |

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | လက်မှတ် |
|---|---|---|---|
| ၂၁ | ဦးဘိလှ | ၆/ကဆန(နိုင်)၀၃၂၇၈၅ | [signature] |
| ၂၂ | ဦးဟုတ် | ၆/ကသ(နိုင်)၀၀၇၀၂၇ | [signature] |
| ၂၃ | ဦးမောင်အေး | ၆/ကဆန(နိုင်)၀၃၂၀၇၅ | [signature] |
| ၂၄ | ဦးဆန်းဦး | ၆/ကဆန(နိုင်)၀၅၂၀၂၇၃ | [signature] |
| ၂၅ | ဦးလှရီ | ၆/ကဆန(နိုင်)၁၁၂၃၂၃ | [signature] |
| ၂၆ | မအုန်းကြည် | ၆/ကဆန(နိုင်)၀၀၆၅၀၅ | [signature] |
| ၂၇ | ဦးမြင့် | ၆/ကဆန(နိုင်)၀၄၉၀၇၅ | [signature] |
| ၂၈ | ဦးမောင်ကြည် | ၆/မမန(နိုင်)၅၂၀၉၄၃ | [signature] |
| ၂၉ | မသန်းလှ | ၆/ကဆန(နိုင်)၁၀၇၆၀၄ | [signature] |
| ၃၀ | ဒေါ်အုန်းရီ | ၆/ကဆန(နိုင်)၀၄၉၇၆၂ | [signature] |
| ၃၁ | ဦးခင်စိုး | ၆/ကဆန(နိုင်)၀၃၂၀၂၃ | [signature] |
| ၃၂ | ဦးသိန်းတန် | ၆/ကဆန(နိုင်)၀၀၆၅၀၅ | [signature] |
| ၃၃ | ဒေါ်အေးရီ | ၆/ကဆန(နိုင်)၀၃၃၄၇၀ | [signature] |
| ၃၄ | ဦးအိုနီ | ၆/ကဆန(နိုင်)၂၂၀၇၈၅ | [signature] |
| ၃၅ | ဦးမြင့် | ၆/ကဆန(နိုင်)၀၀၆၈၄၂ | [signature] |
| ၃၆ | ဦးအေးလွင် | ၆/ကဆန(နိုင်)၀၀၆၃၄၂ | [signature] |
| ၃၇ | ဦးဝင်းစိုး | ၆/ကဆန(နိုင်)၀၀၇၅၆၂ | [signature] |
| ၃၈ | ဒေါ်အေးရီ | ၆/ကဆန(နိုင်)၀၃၃၄၇၀ | [signature] |
| ၃၉ | ဦးကျော်မြင့် | ၆/ကဆန [illegible] | [signature] |
| ၄၀ | ဦးအိုစိုး | မရှိ | [signature] |
| ၄၁ | ကိုသန်းနိုင် | မရှိ | [signature] |
| ၄၂ | ကိုမြင့် | မ မရှိ | [signature] |

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | လက်မှတ် |
|---|---|---|---|
| ၄၃ | မမအေး | ၆/ကစန(နိုင်)[illegible] | |
| ၄၄ | ဦးထွန်းရီ | ၆/ကစန(နိုင်)၁၁၂၃၄၂ | |
| ၄၅ | ဦးအုန်းရွှေ | ၆/ကစန(နိုင်)၀၀၆၅၀၂ | |
| ၄၆ | ဦးအိုနီ | ၆/ကစန(နိုင်)၀၇၄[illegible] | |
| ၄၇ | ဦးမောင်ခင် | ၆/ကစန(နိုင်)၀၀၇၀၃၂ | |
| ၄၈ | ဦးအို | မရှိ | |
| ၄၉ | ဦးအို | မရှိ | |
| ၅၀ | ဒေါ်အေးရွှေ | ၆/ကစန(နိုင်)၀၃၂၈၅၄ | |
| ၅၁ | ဦးအိုနီ | ၆/ကစန(နိုင်)၀၇၄[illegible] | |
| ၅၂ | စောစေးစေး | မရှိ | |
| ၅၃ | မအေးသန်း | ၆/ကစန(နိုင်)၀၇၄၅၇၈ | |
| ၅၄ | မောင်အေးကျော် | ၆/ကစန(နိုင်)၀၀၆၅၄၂ | |
| ၅၅ | မောင်ကျော်မြင့် | မျောက်ရုံ | |
| ၅၆ | မောင်ထွန်းလင်း | ၆/ကစန(နိုင်)၀၃၂၀၅၈ | |
| ၅၇ | မဆွေဆွေ | ၆/ကစန(နိုင်)၀၃၁၇၈၅ | |

ဖော်ပြပါမြေပိုင်ရှင်များသည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရုံကျေးရွာ အုပ်စု၊ ယမုံဒေသတွင် နေထိုင်သူများဖြစ်ကြသည်။

ကျေးရွာအုပ်ချုပ်ရေးမှူး
ကျွဲခရုံကျေးရွာအုပ်စု
ကျွန်းစုမြို့နယ်

နောက်ဆက်တွဲ ( င )

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၆ - ဦးစီးရုံး ၁၅ ( ၉၈၆၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၅ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ <u>ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက် ရောရာ သတ္တုအကြီးစား တူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ</u>

၁။ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ (၂၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၁၇/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

"ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိ ဧရိယာ (၅၇၂) ဧကတွင် ခဲမဖြူ၊ အဖြိုက်နက် ရောရာ သတ္တုအကြီးစား တူးဖော်ထုတ်လုပ်ရေး လုပ်ငန်းများကို သဘောတူစာချုပ် ချုပ်ဆို၍ (၁၀)နှစ် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်း"

၂။ သို့ပါ၍ အထက်ပါ ဆုံးဖြတ်ချက်အရ လိုအပ်သည်များ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ဌေးအောင်၊ အမြဲတမ်းအတွင်းဝန်)

ထိပ်တန်းလျှို့ဝှက်

D:\Cabinet reply.doc

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၈ - ရုံးအဖွဲ့ ၁၄ EC ( ၁၁၅၁၁ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်/ ဦးဆောင်ညွှန်ကြားရေးမှူး

ဦးစီးဌာန/လုပ်ငန်းအားလုံး

အကြောင်းအရာ။ **သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၄၂/၂၀၁၄)ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း ကောက်နုတ်ချက် ပေးပို့ခြင်း**

၁။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ (၃၀) ရက်နေ့တွင် ကျင်းပသော သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၄၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်းမှ ပြည်ထောင်စုဝန်ကြီး၏ လမ်းညွှန်ချက်နှင့် ကောက်နုတ်ချက် မိတ္တူကို ဆက်လက် ဆောင်ရွက်နိုင်ရန် ပူးတွဲ ပေးပို့ပါသည်။

၂။ ဦးစီးဌာန/လုပ်ငန်းများမှ အရေးယူဆောင်ရွက်ပြီးစီးမှုကို ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)

လျှို့ဝှက်

| စဉ် | တင်ပြချက် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- | --- | --- |
| ၃။ | ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာ သတ္တု အကြီးစား ထုတ်လုပ်မှုလုပ်ငန်း လုပ်ကိုင်ခွင့် ပြုပါရန် တင်ပြခြင်း။ | - အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရံကျေးရွာအုပ်စု၊ ယမုံဒေသရှိ မြေဧရိယာ (၅၇၂)ဧကတွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာ သတ္တု အကြီးစား ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် စနစ်ဖြင့် (၁၀)နှစ် သက်တမ်းရှိသော သဘောတူ စာချုပ် ချုပ်ဆို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် သဘောတူပါသဖြင့် လိုအပ်သည်များ ဆက်လက် ဆောင်ရွက်သွားရန်။ | ဝန်ကြီးရုံး<br>သတ္တုဦးစီး<br>(၂)သတလ |
| ၄။ | ရွှေလုပ်ကွက် (၃)ကွက် အပ်နှံခွင့် ပြုပါရန် တင်ပြခြင်း။ | - အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် စာချုပ် ချုပ်ဆို လုပ်ကိုင်ခဲ့သည့် ရွှေရွှေလီ သတ္တု တူးဖော်ရေး ကုမ္ပဏီ လီမိတက်၏ (YMT - 239A, 239B, 240A) လုပ်ကွက် (၃)ကွက်အား ပြန်လည်အပ်နှံ ခွင့်ပြုပါရန် သတ်မှတ်ရွှေစင် ကြွေးကျန်မရှိ ပြည့်ဝစွာပေးသွင်းထားပြီး တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံချက်နှင့်အတူ တင်ပြခြင်းအပေါ် သဘောတူပါသဖြင့် ဆက်လက် ဆောင်ရွက်သွားရန်။ | ဝန်ကြီးရုံး<br>သတ္တုဦးစီး<br>(၂)သတလ |
| ၅။ | အောင်ဇေယျတု အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ဝဖွန်းချောင်း ကျေးရွာအနီးရှိ တာတားလုပ်ကွက်၊ ဂဖွန်းချောင်း ကောင်သစ်လုပ်ကွက်နှင့်ဟုယားတောင်လုပ်ကွက်တို့တွင် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာ သတ္တု အသေးစား ထုတ်လုပ်မှု လုပ်ငန်းကို (၁၀.၃.၂၀၁၁) ရက်နေ့မှ (၉.၃.၂၀၁၄) ရက်နေ့ထိ (၃)နှစ် သက်တမ်းဖြင့် လုပ်ငန်းဆောင်ရွက်ခဲ့ပြီး အဆိုပါ လုပ်ကွက်များ၏ ဌာနအချိုး ပေးသွင်းရန်ကိစ္စ တင်ပြခြင်း။ | - ပြန်လည်စိစစ်တင်ပြရန်။ | (၂)သတလ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**နိုင်ငံတော်သမ္မတရုံး**

စာအမှတ်၊ ၁၅ (၁) / ၇ /သမ္မတရုံး

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်

သို့

သတ္တုတွင်းဝန်ကြီးဌာန

အကြောင်းအရာ။ **ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ခွင့်ကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၁၃-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂၅ ခွဲ (၁) ၁၅ (၇၂၆၆)

သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ် ( ၂ ) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေဂင်လာယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီတို့ ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ ကျွန်းစုမြို့နယ် ၊ ကျွဲခရန် ကျေးရွာရှိ ယမုံဒေသမြေဧရိယာ (၅၇၂)ဧကပေါ်တွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ခွင့်ရရှိရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

(ပုံ)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

သမ္မတရုံးဝန်ကြီးဌာန(၅)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၁၅ ( ၁ )/၇/ သမ္မတရုံး
ရက်စွဲ၊၂၀၁၅ခုနှစ် ဇူလိုင်လ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ

အကြောင်းအရာ။ **စာလွှဲပြောင်းပေးပို့ခြင်း**

သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်း နှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်းကုမ္ပဏီတို့ ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရန်ကျေးရွာအုပ်စုရှိ ယမုံဒေသမြေဧရိယာ (၅၇၂)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ၊ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ခွင့်ရရှိရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုပါရန် သတ္တုတွင်းဝန်ကြီးဌာန မှ တင်ပြလာသည့်စာအား လိုအပ်သလိုအရေးယူဆောင်ရွက်နိုင်ရန် လွှဲပြောင်းပေးပို့အပ်ပါသည် ။

ပူးတွဲ - ( ၂ ) ရွက်

(ပုံ)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတရုံးဝန်ကြီးဌာန (၃)
သတ္တုတွင်းဝန်ကြီးဌာန



D:\2015\July\July 17\15-1 Docx

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**သတ္တုတွင်းဝန်ကြီးဌာန**
**ဝန် ကြီး ရုံး**
**နေပြည်တော်**

စာအမှတ်၊ ၂၅ ခွဲ (၁) ၁၅ ( ၂၂၆၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်

သို့
နိုင်ငံတော်သမ္မတရုံး

အကြောင်းအရာ။ **ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံ -ဒေသတွင် ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစား တူးဖော်ထုတ်လုပ်ခွင့်ပြုပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ နိုင်ငံတော်သမ္မတရုံး၏ ၅.၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁၅ (၁)/ ၇/ သမ္မတရုံး

၁။ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက်တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရန်ကျေးရွာအုပ်စုရှိ ယမုံဒေသ မြေဧရိယာ (၅၇၂)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ အဖြိုက်နက်နှင့် ရောရာသတ္တုအကြီးစားတူးဖော်ခွင့်ရရှိရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့စီးပွားရေးရာကော်မတီသို့ တင်ပြရာတွင် နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်းပါစာဖြင့် **"သက်ဆိုင်ရာဒေသသို့ Corporate Social Responsibility (CSR) အချိုးတစ်ခု ခွဲဝေပေးသင့်ပါကြောင်း သိရှိဆောင်ရွက်နိုင်ရန်"** အကြောင်းကြားခဲ့ပါသည်။

၂။ ထို့သို့ အကြောင်းကြားခဲ့မှုအပေါ် ကုမ္ပဏီနှင့် ဌာနတို့ နှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီချက်ဖြင့် တစ်နှစ်လျာထားချက်သတ္တုသန့်စင်(၅၀)မက်ထရစ်တန်အပေါ် (၂%) ဖြစ်သော သတ္တုသန့်စင်(၁)မက်ထရစ်တန်၏ ကျသင့်တန်ဖိုးငွေအား (CSR)အတွက် လည်းကောင်း၊ (၁%) ဖြစ်သော (၀.၅၀)မက်ထရစ်တန်၏ ကျသင့်တန်ဖိုးငွေအား Mine Closure Plan အတွက်လည်းကောင်း၊ လုပ်ကိုင်ခွင့်ရ သက်တမ်းကာလတစ်လျှောက် ပေးသွင်းမည်ဖြစ်ပါသည်။ CSR ထည့်ဝင်ငွေအား လုပ်ကွက်တည်ရှိရာဒေသရှိ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ တိုင်းဒေသကြီး/ပြည်နယ် အထွေထွေမန်နေဂျာ ရုံးစိုက်ရာမြို့ရှိ မြန်မာ့စီးပွားရေးဘဏ်တွင် သာမာန်သုံးငွေစာရင်း (Current Account) ဖွင့်လှစ်၍ ကော်မတီ ဖွဲ့စည်းပြီး အပ်နှံထားရန်နှင့် အဆိုပါကော်မတီတွင် သက်ဆိုင်ရာတိုင်း ဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့မှ တာဝန်ပေးအပ်သည့်ကိုယ်စားလှယ်၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ တိုင်းဒေသကြီး/ပြည်နယ်အထွေထွေမန်နေဂျာရုံးမှ ကိုယ်စားလှယ်တို့ဖြင့် ဖွဲ့စည်းရန်ဖြစ်ပြီး ကော်မတီဝင်အနည်းဆုံး (၃)ဦးပါဝင်သော အဖွဲ့ဖြင့် ဖွဲ့စည်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ အထက်ပါ (CSR)နှင့် Mine Closure Plan များအတွက် အောက်ပါဌာနများမှ သဘောထားမှတ်ချက်ပြန်ကြားချက်များ ရရှိခဲ့ပြီးဖြစ်ပါသည် -

(က) ဘဏ္ဍာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်။

(ခ) နှစ်ဖက်သဘောတူချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်။

၄။ ဘဏ္ဍာရေးဝန်ကြီးဌာနမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်တွင် CSR ရန်ပုံငွေထည့်ဝင်ထိန်းသိမ်းခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် ပြန်ကြားလာပါသည် -

(က) သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းအနေဖြင့် ဘဏ္ဍာရေးလုပ်ထုံးလုပ်နည်း (၄၂/၈၆)၏ အပိုဒ်(၇၃)အရ ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေနှင့် ဆက်စပ်ဆောင်ရွက်သည့် ကိစ္စရပ်ဖြစ်သောကြောင့် စာရင်းရှင်အပ်ငွေ (Current Account) ဖွင့်လှစ်မည့်အစား ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေ အခြား စာရင်းရှင် UFA (OA) စာရင်းကိုသာ ဖွင့်လှစ်ခွင့်ပြုသင့်ပါကြောင်း၊

(ခ) အဆိုပါ ပြည်ထောင်စု ဘဏ္ဍာရန်ပုံငွေ အခြားစာရင်းရှင် UFA(OA)ဖွင့်လှစ်၍ ရန်ပုံငွေများထိန်းသိမ်းရန် နည်းလမ်းအား သက်ဆိုင်ရာဌာနမှ ရေးဆွဲ၍ ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူဆောင်ရွက်ရန် ဖြစ်ပါကြောင်း၊

(ဂ) ပြည်ထောင်စုအစိုးရအဖွဲ့၏ခွင့်ပြုချက်ရရှိပါက အဆိုပါခွင့်ပြုချက်နှင့်အတူ ငွေတိုက်ဦးစီးဌာနသို့ UFA(OA) ဖွင့်လှစ်ခွင့်အား ညှိနှိုင်းဆောင်ရွက်ရန် ဖြစ်ကြောင်း၊

(ဃ) အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ပုဂ္ဂလိကကုမ္ပဏီတို့ အကျိုးတူဆောင်ရွက်ရန်အတွက် CSR ရန်ပုံငွေထည့်ဝင်အချိုးအား တိကျစွာ ဖော်ပြထားခြင်းမတွေ့ရှိရပါကြောင်းနှင့် သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် CSR ရန်ပုံငွေကထည့်ဝင်မည့်အချိုးအား ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြ၍ အတည်ပြုချက် ရယူသင့်ပါကြောင်း။

၅။ ရွှေပင်လယ်သတ္တုတူးဖော်ရေးကုမ္ပဏီအနေဖြင့် CSR ရန်ပုံငွေအတွက် အသားတင်အမြတ်၏ (၂%) နှင့် Mine Closure Plan အတွက် (၁%) တို့အား ဘဏ္ဍာရေးဝန်ကြီးဌာန၏ အကြံပြုချက်အတိုင်း သက်ဆိုင်ရာဒေသရှိ ငွေတိုက်ဦးစီးဌာနနှင့်ညှိနှိုင်း၍ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းမှ ကိုယ်စားလှယ်(၁)ဦး၊ ကုမ္ပဏီမှ ကိုယ်စားလှယ်(၁)ဦးနှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကိုယ်စားလှယ်(၁)ဦး ပေါင်း(၃)ဦးပါဝင်သောအဖွဲ့ဖြင့် အပ်နှံပြီး တိုင်းဒေသကြီးအစိုးရ အစီအစဉ်ဖြင့် ထုတ်ယူသုံးစွဲသွားမည် ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ ဘဏ္ဍာရေးဝန်ကြီးဌာန၏ အကြံပြုချက်ပါ ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေ အခြားစာရင်းရှင် UFA (OA)ဖွင့်လှစ်၍ ရန်ပုံငွေများထိန်းသိမ်းရန်နည်းလမ်းနှင့်အညီဆောင်ရွက်သွားမည်ဖြစ်ပါ၍ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်တို့သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ကျွဲခရန်ကျေးရွာအုပ်စုရှိ ယမုံဒေသ မြေဧရိယာ (၅၇၂)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူအဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစားတူးဖော်ခွင့်ရရှိရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုပါရန်နှင့် လမ်းညွှန်မှု ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

(မြင့်အောင်)

ဒေါက်တာမြင့်အောင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
သမ္မတရုံးဝန်ကြီးဌာန(၃)
သမ္မတရုံးဝန်ကြီးဌာန(၅)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဝန် ကြီး ရုံး**
နေပြည်တော်

စာအမှတ်၊ ၂၃ ခွဲ (၂) ၁၅ ( ၁၂၅၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **ခဲမဖြူ အဖြိုက်နက်ရောရာသတ္တု အကြီးစားတူးဖော်ထုတ်လုပ်ခွင့်ကိစ္စ**

ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်အား တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံဒေသရှိ ဧရိယာ(၅၇၂)ဧကတွင် ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် ခဲမဖြူ အဖြိုက်နက်ရောရာသတ္တုအကြီးစား တူးဖော်ထုတ်လုပ်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ နိုင်ငံတော်သမ္မတရုံးမှ (၁.၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၅ (၁) / ၇ / သမ္မတရုံး ဖြင့် **သက်ဆိုင်ရာဒေသသို့ Corporate Social Responsibility (CSR) အချိုးတစ်ခု ခွဲဝေပေးသင့်ပါကြောင်း သိရှိဆောင်ရွက်နိုင်ရန် အကြောင်းကြားလာခြင်းအား** သိရှိနိုင်ရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ဒေါက်တာသိန်းစိုး၊ ဒုတိယရုံးအဖွဲ့မှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန် ကြီး ရုံး**

နေပြည်တော်

စာအမှတ်၊ ၃၈ ခွဲ (၂) ၁၄ ( ၁၃၀၂၉ )

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဒီဇင်ဘာလ ၈ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့် စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်တို့၏ စာချုပ် (မူကြမ်း) တွင်ပါရှိသော ငွေကြေးပိုင်းဆိုင်ရာ ကိစ္စရပ်များနှင့် ပတ်သက်၍ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ဝန်ကြီးရုံး၏ ၂၆.၁၁.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၃၈ ခွဲ (၂) ၁၄ (၁၂၅၁၃)

ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံထားသောကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုစာရင်း စစ်ချုပ်ရုံးမှ (၄.၁၂.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ စဆ-၂/ ၀၄၉ (၆၂၆/၂၀၁၄) ဖြင့် **သဘောထားမှတ်ချက် ဖော်ပြရန်မရှိပါကြောင်း ပြန်ကြားလာပါ၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်** အကြောင်းကြားပါသည်။

8/12/14

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

( မင်းမင်းဦး၊ ရုံးအဖွဲ့မှူး )

D:\2014 @\38- section (2) 14\Regional.docx

လျှို့ဝှက်

နောက်ဆက်တွဲ(စ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဘဏ္ဍာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၂/၇ ( ၄ / ၁၁/၂၀၁၅)
ရက်စွဲ၊၂၀၁၅ ခုနှစ်၊ ဇွန်လ ၄ ရက်

သို့

သတ္တုတွင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း**

ရည်ညွှန်းချက်။ သတ္တုတွင်းဝန်ကြီးဌာန၏ ၂၂-၄-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃၈ ခွဲ (၁) ၁၅ (၄၀၅၈)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ်သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့သည် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုအကြီးစားထုတ်လုပ်မှုလုပ်ငန်းအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူဆောင်ရွက်ရန်အတွက် Current Account ကို မြန်မာ့စီးပွားရေးဘဏ်၊ ရုံးချုပ်(နေပြည်တော်) တွင် ဖွင့်လှစ်ဆောင်ရွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည် -

(က) သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းအနေဖြင့် ဘဏ္ဍာရေးလုပ်ထုံးလုပ်နည်း (၄၂/၈၆)၏ အပိုဒ် (၇၃)အရ ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေနှင့် ဆက်စပ်ဆောင်ရွက်သည့်ကိစ္စရပ်ဖြစ်သောကြောင့် စာရင်းရှင်အပ်ငွေ (Current Account) ဖွင့်လှစ်မည့်အစား ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေ အခြားစာရင်းရှင် UFA (OA) စာရင်းကိုသာ ဖွင့်လှစ်ခွင့်ပြုသင့်ပါကြောင်း၊

(ခ) အဆိုပါ ပြည်ထောင်စုဘဏ္ဍာရန်ပုံငွေအခြားစာရင်းရှင် UFA (OA) ဖွင့်လှစ်၍ ရန်ပုံငွေများထိန်းသိမ်းရန်နည်းလမ်းအားသက်ဆိုင်ရာဌာနမှရေးဆွဲ၍ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူဆောင်ရွက်ရန်ဖြစ်ပါကြောင်း၊

(ဂ) ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရရှိပါက အဆိုပါခွင့်ပြုချက်နှင့်အတူ ငွေတိုက်ဦးစီးဌာနသို့ UFA (OA) ဖွင့်လှစ်ခွင့်အား ညှိနှိုင်းဆောင်ရွက်ရန် ဖြစ်ကြောင်း၊

(ဃ) အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ပုဂ္ဂလိကကုမ္ပဏီတို့ အကျိုးတူဆောင်ရွက်ရန်အတွက် CSR ရန်ပုံငွေထည့်ဝင်အချိုးအား တိကျစွာဖော်ပြထားခြင်းမတွေ့ရှိရပါကြောင်းနှင့် သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် CSR ရန်ပုံငွေထည့်ဝင်မည့်အချိုးအား ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြ၍ အတည်ပြုချက် ရယူသင့်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂) သတ္တုတွင်းလုပ်ငန်းနှင့် ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့သည် ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တု အကြီးစားထုတ်လုပ်မှုလုပ်ငန်းအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူဆောင်ရွက်မည့် CSR ရန်ပုံငွေ ထည့်ဝင်ထိန်းသိမ်းခြင်းအပေါ် အထက်ဖော်ပြပါအတိုင်း ဆောင်ရွက်ပါရန် သဘောထားမှတ်ချက်များအား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မင်းသူ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရသုံးမှန်းခြေငွေတိုက်ဦးစီးဌာန
ငွေတိုက်ဦးစီးဌာန

**MYANMAR ORIENTAL BANK LIMITED**
မြန်မာ အရှေ့တိုင်း ဘဏ် လီမိတက်

3169

Building (6),Room No 22 (Corner of 35st; and 82st;), Chan Aye Thar Zan Township, Mandalay., Mandalay.

Phone : (02)39441, (02)39442
Fax : (02)39443

## BALANCE CERTIFICATE

DATE OCTOBER 19, 2015.

CERTIFIED THAT THE BALANCE STANDING AT THE CREDIT OF CURRENT ACCOUNT NO 1021130000035 OF SHWE PIN LE MINING & INDUSTRY CO;LTD. ( NRC 393/2009-2010 ) WITH MYANMAR ORIENTAL BANK LIMITED, MANDALAY 35 ST BRANCH AT THE CLOSE OF BUSINESS ON OCT 19, 2015 WAS K.500,453,774.00 ( KYATS FIVE HUNDRED MILLION FOUR HUNDRED FIFTY THREE THOUSAND SEVEN HUNDRED SEVENTY FOUR ONLY ).

( KHIN MAR WAI )
MANAGER

MANAGER
MYANMAR ORIENTAL BANK LTD

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 008778

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် .......၃၉၃..../ ၂၀၀၉-၂၀၁၀

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ..ရွှေပင်လယ် သတ္တုတူးဖော်ရေး နှင့် စက်မှုလုပ်ငန်း ......ကုမ္ပဏီ လီမိတက်..............အား ယေရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၉ နှစ်၊ ...ဇူလိုင်......လ၊ ..၁....ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ၂၀၁၃ နှစ်၊ ...ဇွန်........လ၊ ၄.....ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..............393.............. of 2009-2010

I hereby certify that the tenure of ..SHWE...PIN...LE..MINING..&..INDUSTRY ..COMPANY LIMITED...................................................incorporated under the Myanmar Companies Act on ................ 1st JULY, 2009 ................ is renewed with effected from ................ 4th JUNE, 2013 ................

For Director General
(Nang Yi Yi Than, Director)
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဦးရှိကျင်ဟိုက်(ခ)ဦးတင်မြင့် (၉/မနမ (နိုင်)၀၈၀၇၂၀)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၁၈၉)၊ မြေညီထပ်၊ ၅၂-လမ်း၊ သုခလမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ် ၀၁-၅၂၄၁၉၀၊ ၀၁-၇၂၁၆၀၃

(ဃ) ဒါရိုက်တာများ အမည်စာရင်း–

၁။ ဦးရှိကျင်ဆိုင်
၁၃/လရန(နိုင်)၀၈၄၆၈၉

၂။ ရှိကျင်ရွှေ(ခ)ဒေါ်စန်းစန်းမြင့်
၁၃/လရန(နိုင်)၀၈၄၆၈၈

မှတ်ချက်။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁-၇-၂၀၁၃ )မှ ( ၃၀-၆-၂၀၁၈ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စုဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး)

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 29th day of August, 2009.

on the of 200 of the * SHWE PINLE MINING & IND CO., LTD

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 500 SHARES

" " " " .....

Nominal amount of the shares so allotted ..... K.50,000,000/-

" " " " .....

Amount paid or due and payable on each such share ..... K.100,000/- (FULLY PAID UP)

" " " " .....

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Presented for filing by : SHI KYIN SHWE @ DAW SAN SAN MYINT

Name, Address and Description of Allotees

| Names & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. SHI KYIN MIKE @ U TIN MYINT 9/MA NA MA (NAING)080720 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | | 100-SHARES |
| 2. SHI KYIN SAING 13/LA YA NA (NAING)084689 | NO.25, AUNG YADANAR LAN THWE, BETWEEN 36x37 STREET & 68x69 STREET, MAHAR MYAING WARD, MAHAR AUNG MYAY TOWNSHIP, MANDALAY. | MERCHANT | | 100-SHARES |
| 3. DAW NANG KHIN MAY 9/MA NA MA (NAING)080719 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | | 100-SHARES |
| 4. SHI KYIN SHWE @ DAW SAN SAN MYINT 13/LA YA NA (NAING)084688 | NO.25, AUNG YADANAR LAN THWE, BETWEEN 36x37 STREET & 68x69 STREET, MAHAR MYAING WARD, MAHAR AUNG MYAY TOWNSHIP, MANDALAY. | MERCHANT | | 100-SHARES |
| 5. U KYAW ZIN MYINT 9/KHA AH ZA(NAING)004641 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | | 50-SHARES |
| 6. U KYAW MIN TUN 9/KHA AH ZA(NAING)004642 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | | 50-SHARES |
| | | | | ========= |
| | | | TOTAL: | 500-SHARES |

(Myanmar Companies Act, See Section 87)

Name of Company : SHWE PINLE MINING & INDUSTRY COMPANY LIMITED

Presented by : SHI KYIN SHWE @ DAW SAN SAN MYINT

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. SHI KYIN HIKE @ U TIN MYINT | MYANMAR 9/MA NA MA (NAING) 080720 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | MANAGING DIRECTOR |
| 2. U SHI KYIN SAING | MYANMAR 13/LA YA NA (NAING)084689 | NO.25, AUNG YADANAR LAN THWE, BETWEEN 36x37 STREET & 68x69 STREET, MAHAR MYAING WARD, MAHAR AUNG MYAY TOWNSHIP, MANDALAY. | MERCHANT | DIRECTOR |
| 3. SHI KYIN SHWE @ DAW SAN SAN MYINT | MYANMAR 13/LA YA NA (NAING)084688 | NO.25, AUNG YADANAR LAN THWE, BETWEEN 36x37 STREET & 68x69 STREET, MAHAR MYAING WARD, MAHAR AUNG MYAY TOWNSHIP, MANDALAY. | MERCHANT | DIRECTOR |
| 4. DAW NANG KHIN MAY | MYANMAR 9/MA NA MA (NAING) 080719 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | RESIGNED FROM DIRECTO W.E.F 1-11-2010. |
| 5. U KYAW ZIN MYINT | MYANMAR 9/KHA AH ZA (NAING)004641 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | RESIGNED FROM DIRECTO W.E.F 1-11-2010. |
| 6. U KYAW MIN TUN | MYANMAR 9/KHA AH ZA (NAING)004642 | NO.287, 35TH STREET, BETWEEN 87x88 STREET, EAST DEWUN, WEST PYI GYI PYAW BWE WARD, CHAN AYE THAR ZAN TOWNSHIP, MANDALAY. | MERCHANT | RESIGNED FROM DIRECTO W.E.F 1-11-2010. |

IOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of .........." and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ............ Daw San San M Director

Designation ............ SHWE PIN LE MINING & INDUS

ated this .......1-11-2010.........

Union Companies

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# SHWE PIN LE MINING & INDUSTRY COMPANY LIMITED

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖❖❖

၁။ ကုမ္ပဏီ၏အမည်သည် "ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်" ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် ၁,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/- (ကျပ်တစ်သိန်းတိတိ)တန် အစုရှယ်ယာပေါင်း (၁၀,၀၀၀)ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

## စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း။ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(ဂ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဃ) အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

(၂) အထက်ဖော်ပြပါလုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ၊ တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

(၃) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသောဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | **ရှီကျင်ဟိုက် (ခ) ဦးတင်မြင့်**<br>အမှတ်-၂၈၇၊ ၃၅-လမ်း၊ ၈၇ × ၈၈လမ်းကြား၊ အရှေ့ဒေးဝန်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၉/မနမ (နိုင်)<br>၀၈၀၇၂၀ | ၁၀၀ | |
| ၂။ | **ရှီကျင်ဆိုင်**<br>အမှတ်-၂၅၊ အောင်ရတနာလမ်းသွယ်၊ ၃၆ × ၃၇လမ်းနှင့် ၆၈×၆၉လမ်းအကြား၊ မဟာမြိုင်ရပ်၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)<br>၀၈၄၆၈၉ | ၁၀၀ | |
| ၃။ | **ဒေါ်နန်းခင်မေ**<br>အမှတ်-၂၈၇၊ ၃၅-လမ်း၊ ၈၇×၈၈လမ်းကြား၊ အရှေ့ဒေးဝန်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၉/မနမ (နိုင်)<br>၀၈၀၇၁၉ | ၁၀၀ | |
| ၄။ | **ရှီကျင်ရွှေ (ခ) ဒေါ်စန်းစန်းမြင့်**<br>အမှတ်-၂၅၊ အောင်ရတနာလမ်းသွယ်၊ ၃၆ × ၃၇လမ်းနှင့် ၆၈×၆၉လမ်းအကြား၊ မဟာမြိုင်ရပ်၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၁၃/လရန (နိုင်)<br>၀၈၄၆၈၈ | ၁၀၀ | |
| ၅။ | **ဦးကျော်ဇင်မြင့်**<br>အမှတ်-၂၈၇၊ ၃၅-လမ်း၊ ၈၇×၈၈လမ်းကြား၊ အရှေ့ဒေးဝန်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၉/ခအဇ (နိုင်)<br>၀၀၄၆၄၁ | ၅၀ | |
| ၆။ | **ဦးကျော်မင်းထွန်း**<br>အမှတ်-၂၈၇၊ ၃၅-လမ်း၊ ၈၇×၈၈လမ်းကြား၊ အရှေ့ဒေးဝန်း၊ ပြည်ကြီးပျော်ဘွယ်အနောက်ရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။<br>(ကုန်သည်) | မြန်မာ<br>၉/ခအဇ (နိုင်)<br>၀၀၄၆၄၂ | ၅၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉-ခုနှစ်၊ ဇွန်လ၊ ၅ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးကျော်ဝင်း (B.Sc., H.G.P., R.L)
တရားရုံးချုပ်ရှေ့နေကြီး (၎၇၄၅)
၅၀/ဝ-ထပ်၊ အခန်း (စီ-၁)၊ သထုံလမ်း၊ မှန်ကျည်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေပင်လယ် သတ္တုတူးဖော်ရေးနှင့်စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖေါ်ပြပါရှိသည့် မလိုက်နာမနေရစည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက် စေရမည်။

(က) ဤကုမ္ပဏီကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှယ်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၁,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/-(ကျပ်တစ်သိန်းတိတိ)တန် အစုရှယ်ယာပေါင်း (၁၀,၀၀၀)ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေ ပြဋ္ဌာန်းချက် များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာ များ၏ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

